# သိမှတ်ဖွယ်ရာ ဗဟုသုတအပြားပြား (၂၀၁၂)

ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာန၊ စာတည်းအဖွဲ့
စုဆောင်းပြုစုသည်။

သိမှတ်ဖွယ်ရာ ဗဟုသုတအပြားပြား (၂၀၁၂)

အိမ်တိုင်းရှိရမည့် စာအုပ်၊
လူတိုင်းသိရမည့် အချက်များ
သတင်းခေတ်၊ ပညာခေတ်မှာ
လူယဉ်ကျေး တတ်မှုရှိလာနိုင်အောင်
စုဆောင်းထားသည့်
သိမှတ်ဖွယ်ရာ
ဗဟုသုတအပြားပြား စာအုပ်။

သိမှတ်ဖွယ်ရာ ဗဟုသုတအဖြာဖြာ (၂၀၁၂)

## ဒို့တာဝန်အရေးသုံးပါး

- ✪ ပြည်ထောင်စုမပြိုကွဲရေး ဒို့အရေး
- ✪ တိုင်းရင်းသားစည်းလုံးညီညွတ်မှု မပြိုကွဲရေး ဒို့အရေး
- ✪ အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေး ဒို့အရေး

## ပြည်သူ့သဘောထား

- ✪ ပြည်ပအားကိုး ပုဆိန်ရိုး အဆိုးမြင်ဝါဒီများအား ဆန့်ကျင်ကြ
- ✪ နိုင်ငံတော် တည်ငြိမ်အေးချမ်းရေးနှင့် နိုင်ငံတော်တိုးတက်ရေးကို နှောင့်ယှက်ဖျက်ဆီးသူများအား ဆန့်ကျင်ကြ
- ✪ နိုင်ငံတော်၏ ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက်နှောင့်ယှက်သော ပြည်ပနိုင်ငံများအား ဆန့်ကျင်ကြ
- ✪ ပြည်တွင်း ပြည်ပ အဖျက်သမားများအား ဘုံရန်သူအဖြစ် သတ်မှတ်ချေမှုန်းကြ

## နိုင်ငံရေးဦးတည်ချက် (၄)ရပ်

- ✪ နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေး
- ✪ အမျိုးသားစည်းလုံးညီညွတ်မှု ခိုင်မာရေး
- ✪ စည်းကမ်းပြည့်ဝသော ဒီမိုကရေစီစနစ် ရှင်သန်ခိုင်မာအောင် တည်ဆောက်ရေး
- ✪ ဖွဲ့စည်းပုံအခြေခံဥပဒေနှင့်အညီ ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ် တည်ဆောက်ရေး

## စီးပွားရေးဦးတည်ချက် (၄)ရပ်

- ✪ စိုက်ပျိုးရေးကို ပိုမိုဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ပြီး ခေတ်မီစက်မှုနိုင်ငံထူထောင်ရေးနှင့် အခြားစီးပွားရေးကဏ္ဍများကိုလည်း ဘက်စုံဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး
- ✪ ဈေးကွက်စီးပွားရေးစနစ် ပီပြင်စွာ ဖြစ်ပေါ်လာရေး
- ✪ ပြည်တွင်းပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး
- ✪ နိုင်ငံတော်၏ စီးပွားရေးတစ်ရပ်လုံးကို ဖန်တီးနိုင်မှု စွမ်းအားသည် နိုင်ငံတော်နှင့် တိုင်းရင်းသား ပြည်သူတို့၏ လက်ဝယ်တွင်ရှိရေး

## လူမှုရေးဦးတည်ချက် (၄)ရပ်

- ✪ တစ်မျိုးသားလုံး၏ စိတ်ဓာတ်နှင့် အကျင့်စာရိတ္တ မြင့်မားရေး
- ✪ အမျိုးဂုဏ်၊ ဇာတိဂုဏ်မြင့်မားရေးနှင့် ယဉ်ကျေးမှုအမွေအနှစ်များ၊ အမျိုးသားရေးလက္ခဏာများ မပျောက်ပျက်အောင် ထိန်းသိမ်းစောင့်ရှောက်ရေး
- ✪ စစ်မှန်သော မျိုးချစ်စိတ်ဓာတ်ဖြစ်သည့် ပြည်ထောင်စုစိတ်ဓာတ် ရှင်သန်ထက်မြက်ရေး
- ✪ တစ်မျိုးသားလုံး ကျန်းမာကြံ့ခိုင်ရေးနှင့် ပညာရည်မြင့်မားရေး

**yEyrwwr;**

| | | |
|---|---|---|
| **pmrcijylcsu trw** | - | 4003660412 |
| **rsuEmz;cijylcsu trw** | - | 4003400412 |
| **rsuEmz;'Zi;** | - | oucia0i; |
| **xwa0o** | - | 0;at;u ,? ñelum;a&;rL;(xwvy) |
| | | jyelum;a&;Eijyno lquqa&;0;p;Xme/ |
| **yEyo** | - | a':0i;rm? pwu;cslcsyEywu |
| | | trw(1179)? rp;&rvr;? (11)&yuu? |
| | | &eui;lrlle ,? &euelrl/ |
| **tya&** | - | 5000 |
| **yEyjci;** | - | 2012 cEp? rwv |
| **xwa0ontlur** | - | yxrtlur |

001

jyelum;a&;Eijyno lquqa&;0;p;Xme? pmwn;tzl

orwz,&m A[ owtjzmjzm (2012) ^ jyelum;a&;Eijyno l

quqa&;0;p;Xme? pmwn;tzl/ - &eue?

jyelum;a&;Eijyno lquqa&;0;p;Xme? 2012/

419 - pm ? 13 piw × 20 piw/

(1) orwz,&m A[ owtjzmjzm (2012)




## မာတိကာ

သိမှတ်ဖွယ်ရာ ဗဟုသုတအဖြာဖြာ (၂၀၁၂)

## အမှာစာ

ယနေ့အချိန်တွင် လူတိုင်းလူတိုင်းသည် မိမိတို့ဘဝ တိုးတက်မြင့်မားရေးအတွက် အတတ်ပညာများ၊ အတွေးအမြင် ဗဟုသုတများကို တိုးတက်မြင့်မားအောင် ကြိုးစားနေကြရသည်။ ယှဉ်ပြိုင်မှု၊ စိန်ခေါ်မှုအမျိုးမျိုးကို ရင်ဆိုင်ကြုံတွေ့ နေကြရသည်။ တိုးတက်ပြောင်းလဲနေသော ခေတ်နှင့်အညီ လိုက်ပါနေကြရသည်။ မည်သူမဆို အသိဉာဏ် ဗဟုသုတ တိုးတက်မြင့်မားမှသာ အမြင်ကျယ်စွာ ရှုမြင်နိုင်မည်။ ဆုံးဖြတ်နိုင်မည်။ ခေါင်ဆောင်နိုင်မည်။ ကြုံတွေ့ရသော ပြဿနာများ၊ စိန်ခေါ်မှုများ၊ ယှဉ်ပြိုင်မှုများ၊ အခက်အခဲများကို ရင်ဆိုင်ကျော်လွှားနိုင်ကြမည် ဖြစ်သည်။

ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာနအနေဖြင့် ပြည်သူလူထု အသိဉာဏ် ဗဟုသုတပြည့်စုံစေရန်၊ ဝင်ခွင့်စာမေးပွဲများဖြေဆိုရာတွင် အထောက်အကူဖြစ်စေရန်နှင့် သိလိုသည့်အချက်များကို တစ်စုတစ်စည်းတည်း ရှာဖွေသိရှိနိုင်စေရန် ရည်ရွယ်ချက်တို့ဖြင့် သိမှတ်ဖွယ်ရာ ဗဟုသုတအဖြာဖြာစာအုပ်ကို ၂၀၀၈ ခုနှစ်မှစ၍ နှစ်စဉ်ထုတ်ဝေခဲ့ပါသည်။ ယခုနှစ်တွင်လည်း အချိန်ကာလနှင့်ကိုက်ညီသော အချက်အလက်များကို ဖြည့်စွက်ပြင်ဆင်ပြီး ထုတ်ဝေလိုက်ပါသည်။

ဤစာအုပ်တွင် မြန်မာနိုင်ငံ၏ သမိုင်းကြောင်းဖြစ်စဉ်များ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် သမ္မတအဖြစ်တာဝန်ထမ်းဆောင်ခဲ့သည့် ပုဂ္ဂိုလ်များနှင့် ဝန်ကြီးချုပ်အဖြစ် တာဝန်ထမ်းဆောင်ခဲ့သည့် ပုဂ္ဂိုလ်များ၊ ပထဝီဆိုင်ရာ အချက်အလက်များ၊ ဧရာဝတီမြစ်ဆုံစီမံကိန်းဆိုင်ရာ အချက်အလက်များ၊ နိုင်ငံတော်သမ္မတ ဦးသိန်းစိန် ပြောကြားခဲ့သည့် မိန့်ခွန်း၊ အမှာစကားကောက်နုတ်ချက်များနှင့် ပေးပို့ခဲ့သော သဝဏ်လွှာများ၊ အစိုးရဝန်ကြီးဌာနများ၊ ပြည်ထောင်စုအစိုးရအဖွဲ့၊ တိုင်းဒေသကြီးနှင့် ပြည်နယ် ဝန်ကြီးချုပ်များ၊ ပထမအကြိမ် ပြည်ထောင်စုလွှတ်တော်မှ အတည်ပြု

ခန့်အပ်ခဲ့သည့် ရာထူးနေရာနှင့်ပုဂ္ဂိုလ်များ၊ တိုင်းဒေသကြီးလွှတ်တော်နှင့် ပြည်နယ်လွှတ်တော်အသီးသီး၌ ခန့်အပ်ထားသော လွှတ်တော်ဥက္ကဋ္ဌများ၊ ဒုတိယဝန်ကြီးများ၊ တိုင်းဒေသကြီးလွှတ်တော်နှင့် ပြည်နယ်လွှတ်တော်အသီးသီး၌ ဖွဲ့စည်းထားသော ဝန်ကြီးဌာနများ၊ ပြည်ထောင်စု ရွေးကောက်ပွဲကော်မရှင်၊ ဘဏ္ဍာရေးကော်မရှင်၊ မြန်မာနိုင်ငံ အမျိုးသားလူ့အခွင့်အရေးကော်မရှင်၊ ကျေးလက်ဒေသဖွံ့ဖြိုးရေးနှင့် ဆင်းရဲနွမ်းပါးမှုလျှော့ချရေး ဗဟိုကော်မတီ၊ လုပ်ငန်းကော်မတီ၊ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေး ဗဟိုကော်မတီ၊ ပြည်ထောင်စုလွှတ်တော် ပူးပေါင်းကော်မတီများ၊ ပြည်သူ့လွှတ်တော်နှင့် အမျိုးသားလွှတ်တော်တွင် ဖွဲ့စည်းထားသည့် ကော်မတီများ၊ ၂၀၁၁ ခုနှစ် မြန်မာ-တရုတ်ဆက်ဆံရေး၊ မြန်မာ-အမေရိကန် ဆက်ဆံရေး၊ မြန်မာနိုင်ငံ အစိုးရအဆက်ဆက်တွင် လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့သည့် ဖြစ်စဉ်များ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရသစ်လက်ထက်တွင် လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့သော ဖြစ်စဉ်များ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရလက်ထက် ငြိမ်းချမ်းရေးဆွေးနွေးမှုအခြေအနေများ၊ ပထမအကြိမ် ပြည်ထောင်စုလွှတ်တော်၊ ပြည်သူ့လွှတ်တော်၊ အမျိုးသားလွှတ်တော် ပုံမှန်အစည်းအဝေး၊ ပထမအကြိမ် ပြည်ထောင်စုလွှတ်တော်၊ ပြည်သူ့လွှတ်တော်၊ အမျိုးသား လွှတ်တော် ဒုတိယ ပုံမှန်အစည်းအဝေး၊ ပြည်နယ်နှင့် တိုင်းဒေသကြီးအသီးသီး၏ ဖွံ့ဖြိုးတိုးတက်မှုမှတ်တမ်းများ၊ တပ်မတော်ဆိုင်ရာ သိမှတ်ဖွယ်ရာများ၊ မြန်မာနိုင်ငံ ရဲတပ်ဖွဲ့ဆိုင်ရာ သိမှတ်ဖွယ်ရာများ၊ နိုင်ငံတကာရေးရာ သိမှတ်ဖွယ်ရာများ၊ မြန်မာ နိုင်ငံ၊ နိုင်ငံခြားရေးမူဝါဒ၊ ဘာသာရေးဆိုင်ရာ သိမှတ်ဖွယ်ရာများ၊ ကျန်းမာရေး ဆိုင်ရာ သိမှတ်ဖွယ်ရာများ စသည်တို့ကို ဗဟုသုတဖြစ်ဖွယ် ဖော်ပြထားသည်။ လူတိုင်းသိထားသင့်သည်များကို စုစည်းထားသည့်အတွက် စာဖတ်သူများ အကျိုး ရှိစေနိုင်သည့် စာအုပ်ကောင်းတစ်အုပ် ဖြစ်ပါသည်။

ထို့ကြောင့် ဗဟုသုတ ရှာမှီးလိုသူများ၊ ရာထူးဝင်စာမေးပွဲ ဖြေဆိုကြမည့်သူများ၊ ဆရာ၊ ဆရာမများ၊ ကျောင်းသား၊ ကျောင်းသူများ လက်ကိုင်ပြုထားရမည့် စာအုပ်ဖြစ်သည်။ အနာဂတ်နိုင်ငံတော်အတွက် လူချွန်လူကောင်းများ၊ ခေါင်းဆောင်ကောင်းများ၊ အသိပညာရှင် အတတ်ပညာရှင်များ ပေါ်ထွန်းလာရေးအတွက် အထောက်အကူပြုမည်ဟု ယုံကြည်လျက် ထုတ်ဝေလိုက်ရပါသည်။

**စာတည်းအဖွဲ့**

**ပြန်ကြားရေးနှင့်ပြည်သူ့ဆက်ဆံရေးဦးစီးဌာန**



# မြန်မာနိုင်ငံ၏ သမိုင်းဖြစ်စဉ်

ဖြစ်ပေါ်ပြောင်းလဲခဲ့ရသော မြန်မာနိုင်ငံ၏ သမိုင်းဖြစ်စဉ်များမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| အေဒီ ၁ ရာစု | ... | ဗိဿနိုး၊ ဟန်လင်း၊ သရေခေတ္တရာဒေသများတွင် ပဒေသရာဇ် နိုင်ငံငယ်များကို 'ပျူ' လူမျိုးများက ထူထောင်ခဲ့ကြသည်။ |
| ၁၀၄၄ – ၁၂၉၇ | ... | ပုဂံခေတ်၊ အနော်ရထာမင်း(၁၀၄၄- ၁၀၇၇)က ပထမမြန်မာနိုင်ငံတော်ကို ထူထောင်သည်။ |
| ၁၅၅၂ – ၁၅၉၅ | ... | တောင်ငူခေတ်၊ ဘုရင့်နောင်မင်းတရားကြီး (၁၅၅၂-၁၅၈၁)က ဒုတိယမြန်မာနိုင်ငံတော်ကို ထူထောင်သည်။ |
| ၁၇၅၂ – ၁၈၈၅ | ... | ကုန်းဘောင်ခေတ်၊ အလောင်းမင်းတရားကြီး (၁၇၅၂-၁၇၆၀)က တတိယမြန်မာနိုင်ငံတော်ကို ထူထောင်သည်။ |
| ၁၈၂၄ – ၁၈၂၆ | ... | အင်္ဂလိပ်-မြန်မာ ပထမစစ်ပွဲဖြစ်ပွားသည်။ |
| ၁၈၅၂ – ၁၈၅၄ | ... | အင်္ဂလိပ်-မြန်မာ ဒုတိယစစ်ပွဲဖြစ်ပွားသည်။ |
| ၁၈၈၅ | ... | အင်္ဂလိပ်-မြန်မာ တတိယစစ်ပွဲဖြစ်ပွားပြီးနောက် ဗြိတိသျှကိုလိုနီနယ်ချဲ့လက်အောက်သို့မြန်မာ နိုင်ငံ ကျရောက်ခဲ့သည်။ |
| ၁၉၀၆ | ... | ဗုဒ္ဓဘာသာကလျာဏယုဝအသင်း (ဝိုင်အမ်ဘီအေ) ကို ထူထောင်ကာ အမျိုး၊ ဘာသာ၊ သာသနာ အတွက် ကြိုးပမ်းကြသည်။ ၁၉၁၈ ခုနှစ် ဒီဇင်ဘာ ၁၈ရက်၌ ဗြိတိသျှအစိုးရက ကရက်ဒေါက် စီမံကိန်းကို ထုတ်ပြန်သည်။ |

| | | |
|---|---|---|
| ၁၆-၁၁-၁၉၁၉ | ... | မြန်မာ့ကုမ္မာရီအသင်းခေါ် မြန်မာအမျိုးသမီးသမဂ္ဂ အသင်းကိုဖွဲ့စည်းသည်။ |
| ၁၉၂၀ အောက်တိုဘာ (၂၉-၃၁) | ... | ဗုဒ္ဓဘာသာကလျာဏယုဝအသင်းကြီး၏ အဌမ အကြိမ်ညီလာခံက မြန်မာပြည်လုံးဆိုင်ရာအသင်း ချုပ်ကြီး (ဂျီစီဘီအေ) ဟူ၍ အမည်ပြောင်းသည်။ |
| ၁၉၂၀ ဒီဇင်ဘာ ၅ | ... | ရန်ကုန်တက္ကသိုလ် ပထမကျောင်းသားသပိတ် စတင်မှောက်သည်။ |
| ၁၉၃၀ မေ ၃၀ | ... | တို့ဗမာအစည်းအရုံး ထူထောင်သည်။ |
| ၁၉၃၀ ဒီဇင်ဘာ ၂၂ | ... | ဆရာစံဦးဆောင်သည့် တောင်သူလယ်သမားအရေး တော်ပုံ သာယာဝတီခရိုင်၊ ရေတိုက်ရွာမှ စတင်သည်။ |
| ၂၅-၂-၁၉၃၆ | ... | ရန်ကုန်တက္ကသိုလ် ဒုတိယကျောင်းသားသပိတ် မှောက်သည်။ |
| ၁၉၂၃ - ၁၉၃၇ | ... | ဒိုင်အာခီအုပ်ချုပ်ရေးကာလဖြစ်သည်။ |
| ၁-၄-၃၇ မှ ၁၀-၁၂-၄၂ | ... | ကိုးဆယ့်တစ်ဌာန အုပ်ချုပ်ရေးစနစ် ကျင့်သုံးချိန် ဖြစ်သည်။ |
| ၈-၁-၁၉၃၈ | ... | ချောက်ရေနံမြေသပိတ်စတင်သည်။ ၁၃၀၀ပြည့် အရေးတော်ပုံ ပေါ်ပေါက်သည်။ |
| ၂၇-၁၂-၁၉၄၁ | ... | ထိုင်းနိုင်ငံ၊ ဘန်ကောက်မြို့တွင် ဗမာ့လွတ်လပ်ရေး တပ်မတော် (ဘီအိုင်အေ) ဖွဲ့စည်းသည်။ |
| ၂၇-၇-၁၉၄၂ | ... | ဗမာ့လွတ်လပ်ရေးတပ်မတော်ကို ဗမာ့ကာကွယ် ရေး တပ်မတော် (ဘီဒီအေ) အဖြစ် ပြောင်းလဲ ဖွဲ့စည်းသည်။ |
| ၁-၈-၁၉၄၃ | ... | ဂျပန်တို့က အတုအယောင်လွတ်လပ်ရေးပေးသည်။ |
| ၂၇-၃-၁၉၄၅ | ... | ဖက်ဆစ်တော်လှန်ရေး စတင်ဆင်နွှဲသည်။ |
| ၁၉၄၅ - ၁၉၄၇ | ... | နယ်ချဲ့ဗြိတိသျှတို့၏ စက္ကူဖြူအုပ်ချုပ်ရေးခေတ် ဖြစ်သည်။ |
| ၁၉၄၇ | ... | ဆိုရှန်တိုဗီလာပြန်လည်ထူထောင်ရေး စီမံကိန်းများ ချမှတ်သည်။ |
| ၁၂-၂-၁၉၄၇ | ... | ပင်လုံသဘောတူညီချက်ကို ဗိုလ်ချုပ်အောင်ဆန်း နှင့် တိုင်းရင်းသားခေါင်းဆောင် ၂၂ ဦး လက်မှတ် ရေးထိုးသည်။ |
| ၄-၁-၁၉၄၈ | ... | မြန်မာနိုင်ငံလွတ်လပ်ရေးရရှိသည်။ |
| ၁၉၄၈ - ၁၉၅၀ | ... | ပါလီမန်ဒီမိုကရေစီစနစ်ကျင့်သုံးပြီး နိုင်ငံကို အုပ်ချုပ်သည်။ |
| ၁၉၅၈ - ၁၉၅၉ | ... | တပ်မတော်က အိမ်စောင့်အစိုးရအဖြစ် နိုင်ငံကို ထိန်းသိမ်းစောင့်ရှောက်သည်။ |
| ၂-၃-၁၉၆၂ | ... | တော်လှန်ရေးကောင်စီက နိုင်ငံတော် အာဏာကို ရယူသည်။ |
| ၃-၁-၁၉၇၄ | ... | ဖွဲ့စည်းပုံအခြေခံဥပဒေကို ဆန္ဒမဲပေးပိုင်ခွင့်ရှိသူ များ၏ ၉၀ဒသမ၁၉ရာခိုင်နှုန်းဖြင့် အတည်ပြု ပြဋ္ဌာန်းသည်။ |
| ၁၉၇၄ - ၁၉၈၈ | ... | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ၏ ဦးဆောင်မှုဖြင့် ခေတ်ပြောင်းတော်လှန်ရေး ဆင်နွှဲသည်။ ပြည်သူ့ လွှတ်တော်နှင့် ပြည်သူ့ကောင်စီ အဆင့်ဆင့်ကို ဖွဲ့စည်းကာ ပြည်သူ့ကိုယ်စားလှယ်များက နိုင်ငံတော်၏ ဥပဒေပြုရေး၊ အုပ်ချုပ်ရေး၊ တရား စီရင်ရေးတာဝန်များကို ဆောင်ရွက်သည်။ |
| ၁၈-၉-၁၉၈၈ | ... | အထွေထွေမကျေနပ်မှုများကြောင့် ဆန္ဒပြမှုများ ဖြစ်ပွားသည်။ ပြည်တွင်းပြည်ပ အဖျက်အမှောင့် ပယောဂများ စွက်ဖက်မှုကြောင့် မင်းမဲ့စရိုက်များ လွှမ်းမိုးကာ တိုင်းဆူပြည်ဖျက်လုပ်ရပ်များ ကြီးစိုး လာသည်။ တရားဥပဒေစိုးမိုးမှုနှင့် ရပ်ရွာအေးချမ်း သာယာမှုပျက်သုဉ်းကာ ပြည်သူများ ကျိုးလန့်စာစား အခြေအနေသို့ ဆိုက်ရောက်ခဲ့သဖြင့် တပ်မတော် က နိုင်ငံ့တာဝန်ကိုရယူပြီး နိုင်ငံတော်ကိုကာကွယ် စောင့်ရှောက်ခဲ့ရသည်။ |
| ၂၇-၅-၁၉၉၀ | ... | ပါတီစုံဒီမိုကရေစီရွေးကောက်ပွဲ ကျင်းပသည်။ |
| ၉-၁-၁၉၉၃ | ... | အမျိုးသားညီလာခံ စတင်ကျင်းပသည်။ |
| ၃၀-၅-၁၉၉၆ | ... | အမျိုးသားညီလာခံကို ယာယီအားဖြင့် ဆိုင်းငံ့သည်။ |

၁၅-၁၁-၁၉၉၇ ... နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီကို ဖွဲ့စည်း၍ နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး ဦးတည်ချက် (၁၂)ရပ် ချမှတ်ကာ အေးချမ်းသာယာပြီး ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်ကို ဆက်လက်တည်ဆောက်သည်။

၃၀-၈-၂၀၀၃ ... နိုင်ငံတော်ရှေ့ဆက်သွားမည့် မူဝါဒလမ်းစဉ်(၇)ရပ်ကို ကြေညာသည်။

၁၇-၅-၂၀၀၄ ... ၁၉၉၆ ခုနှစ်၌ ယာယီအားဖြင့်ဆိုင်းငံ့ထားခဲ့သော အမျိုးသားညီလာခံကို ပြန်လည် ကျင်းပသည်။

၃-၉-၂၀၀၇ ... အမျိုးသားညီလာခံ အောင်မြင်စွာ ကျင်းပပြီးစီးခဲ့သည်။

၁၀-၅-၂၀၀၈ ... ဖွဲ့စည်းပုံအခြေခံဥပဒေမူကြမ်းကို ပြည်လုံးကျွတ်ဆန္ဒခံယူပွဲ ကျင်းပသည်။

၂၉-၅-၂၀၀၈ ... နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက ကြေညာချက်အမှတ် (၇/၂၈) ဖြင့် ဖွဲ့စည်းပုံအခြေခံဥပဒေကို အတည်ပြုပြဋ္ဌာန်းလိုက်ကြောင်း ကြေညာသည်။

၁၁-၃-၂၀၁၀ ... နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီက ကြေညာချက်အမှတ် (၁/၂၀၁၀)ဖြင့် ပြည်ထောင်စု ရွေးကောက်ပွဲကော်မရှင်ကို ဖွဲ့စည်းခဲ့သည်။

၇-၁၁-၂၀၁၀ ... ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် ၃၃၀ ရှိသည့်အနက် ၃၂၅ နယ်တွင်လည်းကောင်း၊ အမျိုးသားလွှတ်တော်မဲဆန္ဒနယ် ၃၃၀ ရှိသည့်အနက် ၁၆၈ နယ်တွင်လည်းကောင်း၊ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော်မဲဆန္ဒနယ် (တိုင်းရင်းသားလူမျိုးမဲဆန္ဒနယ် ၂၉ ခုအပါအဝင်) ၆၇၃ နယ်ရှိသည့်အနက် ၆၆၁ နယ်တွင်လည်းကောင်း၊ ပါတီစုံဒီမိုကရေစီ ရွေးကောက်ပွဲများကို ကျင်းပခဲ့သည်။



၇-၁၂-၂၀၁၀ ... ဆန္ဒမဲပေးပိုင်ခွင့်ရှိသူ ဦးရေ ၂၉ သန်းကျော် (၂၉၀၂၁၆၀၈)ဦးရှိပြီး ပြည်သူ့လွှတ်တော်အတွက် ဆန္ဒမဲပေးသူဦးရေမှာ ၂၂ သန်းကျော် (၂၂၄၂၁၁၂၃) ဦးရှိကာ ဆန္ဒမဲပေးမှုရာခိုင်နှုန်းမှာ ၇၇ဒသမ၂၆ ရာခိုင်နှုန်း၊ အမျိုးသားလွှတ်တော်အတွက် ဆန္ဒမဲပေးသူဦးရေမှာ ၂၂သန်းကျော်(၂၂၂၈၃၄၆၅)ဦးရှိကာ ဆန္ဒမဲပေးမှုရာခိုင်နှုန်းမှာ ၇၆ဒသမ၇၈ ရာခိုင်နှုန်း၊ တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော် (တိုင်းရင်းသားလူမျိုးအပါအဝင်) အတွက် ဆန္ဒမဲပေးပိုင်ခွင့်ရှိသူ ဦးရေ ၂၈သန်းကျော် (၂၈၅၃၄၂၁၆)ဦးရှိပြီး ဆန္ဒမဲပေးသူဦးရေမှာ ၂၁သန်းကျော်(၂၁၈၆၃၁၂၃)ဦးရှိကာ ဆန္ဒမဲပေးမှုရာခိုင်နှုန်းမှာ ၇၆ဒသမ၆၂ ရာခိုင်နှုန်းရှိကြောင်း ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်က ထုတ်ပြန်ကြေညာခဲ့သည်။

၃၁-၁-၂၀၁၁ ... နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီသည် ပထမအကြိမ် ပြည်သူ့လွှတ်တော်အစည်းအဝေး၊ ပထမအကြိမ် အမျိုးသားလွှတ်တော်အစည်းအဝေး၊ ပထမအကြိမ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်အစည်းအဝေးကို နေပြည်တော်၌ ကျင်းပခဲ့သည်။

၃၀-၃-၂၀၁၁ ... ပထမအကြိမ် ပြည်သူ့လွှတ်တော် အစည်းအဝေး၊ ပထမအကြိမ် အမျိုးသားလွှတ်တော်အစည်းအဝေး၊ ပထမအကြိမ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော်အစည်းအဝေးကို နေပြည်တော်၌ အောင်မြင်စွာ ကျင်းပပြီးစီးခဲ့သည်။

၃၀-၃-၂၀၁၁ ... နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီက ကြေညာချက်အမှတ် (၅/၂၀၁၁)ဖြင့် နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီကို ဖျက်သိမ်းခဲ့သည်။

## ပထမမြန်မာနိုင်ငံတော်

၁။ အချိန်ကာလ - အေဒီ ၁၀၄၄ မှ ၁၀၇၇ အထိ
၂။ တည်ထောင်သူ - အနော်ရထာမင်း

## ဒုတိယမြန်မာနိုင်ငံတော်

၁။ အချိန်ကာလ - အေဒီ ၁၅၅၁ မှ ၁၅၈၁ အထိ
၂။ တည်ထောင်သူ - ဘုရင့်နောင်မင်း

## တတိယမြန်မာနိုင်ငံတော်

၁။ အချိန်ကာလ - အေဒီ ၁၇၅၂ မှ ၁၇၆၀ အထိ
၂။ တည်ထောင်သူ - အလောင်းမင်းတရား

## အင်္ဂလိပ် - မြန်မာ ပထမစစ်ပွဲ

၁။ ဘကြီးတော်မင်းတရားလက်ထက်
၂။ ၅-၃-၁၈၂၄ ရက်နေ့တွင် ဖြစ်ပွားသည်။
၃။ ရခိုင်နှင့်တနင်္သာရီနယ်မြေများဆုံးရှုံး



## အင်္ဂလိပ် - မြန်မာ ဒုတိယစစ်ပွဲ

၁။ ပုဂံမင်းလက်ထက်
၂။ ၅-၄-၁၈၅၂ ရက်နေ့တွင် ဖြစ်ပွားသည်။
၃။ အောက်မြန်မာနိုင်ငံတစ်ခုလုံး အပါအဝင် အထက်မြန်မာနိုင်ငံ မြေထဲမြို့အထိဆုံးရှုံး

## အင်္ဂလိပ် - မြန်မာ တတိယစစ်ပွဲ

၁။ သီပေါမင်းလက်ထက်
၂။ ၁၁-၁၁-၁၈၈၅ ရက်နေ့တွင် ဖြစ်ပွားသည်။
၃။ မြန်မာတစ်နိုင်ငံလုံး အင်္ဂလိပ်လက်အောက်ရောက်ရှိ

## ရှေးခတ် မြို့ပြနိုင်ငံများ

၁။ တကောင်းမြို့ပြနိုင်ငံ
၂။ ဗိဿနိုးမြို့ပြနိုင်ငံ
၃။ ဟန်လင်းမြို့ပြနိုင်ငံ
၄။ သရေခေတ္တရာမြို့ပြနိုင်ငံ
၅။ ဝေသာလီမြို့ပြနိုင်ငံ
၆။ သုဝဏ္ဏဘူမိမြို့ပြနိုင်ငံ

## ရှေးခေတ်မြန်မာမင်းဆက်များ

| | | | | |
|---|---|---|---|---|
| ၁။ | ပထမတကောင်းမင်းဆက် | = | ၃၃ | ဆက် |
| ၂။ | ဒုတိယတကောင်းမင်းဆက် | = | ၁၇ | ဆက် |
| ၃။ | သရေခေတ္တရာမင်းဆက် | = | ၂၇ | ဆက် |
| ၄။ | ပုဂံမင်းဆက် | = | ၅၈ | ဆက် |
| ၅။ | ပင်းယမင်းဆက် | = | ၆ | ဆက် |
| ၆။ | စစ်ကိုင်းမင်းဆက် | = | ၇ | ဆက် |
| ၇။ | အင်းဝမင်းဆက် | = | ၁၇ | ဆက် |
| ၈။ | တောင်ငူမင်းဆက် | = | ၄ | ဆက် |

၉။ ဟံသာဝတီမင်းဆက် = ၁၁ ဆက်
၁၀။ ညောင်ရမ်းမင်းဆက် = ၁၁ ဆက်
၁၁။ ကုန်းဘောင်မင်းဆက် = ၁၁ ဆက်

## အာဇာနည်ခေါင်းဆောင်ကြီးများ

၁။ ဗိုလ်ချုပ်အောင်ဆန်း
၂။ သခင်မြ
၃။ ဒီးဒုတ်ဦးဘချို
၄။ ဦးရာဇတ်
၅။ ဦးဘဝင်း
၆။ မန်းဘခိုင်
၇။ မိုင်းပွန်စော်ဘွားကြီး စဝ်စံထွန်း
၈။ ဦးအုန်းမောင်(အတွင်းဝန်)
၉။ ရဲဘော်ကိုထွေး (သက်တော်စောင့်)

## မြန်မာ့လွတ်လပ်ရေးကာလတစ်လျှောက် ချုပ်ဆိုခဲ့သော စာချုပ်များ

**ကန္ဒီစာချုပ်**

၁၉၄၅ခုနှစ် စက်တင်ဘာလ ၇ ရက်တွင် သီရိလင်္ကာနိုင်ငံ ကန္ဒီမြို့၌ ဗိုလ်ချုပ်အောင်ဆန်းနှင့် လော့ဝူဝီမောင့်ဘက်တန်တို့ ချုပ်ဆိုခဲ့ကြသည့် စာချုပ်ဖြစ်သည်။

**အောင်ဆန်း-အက်တလီစာချုပ်**

၁၉၄၇ခုနှစ် ဇန်နဝါရီလ ၂၇ ရက်တွင် အင်္ဂလန်နိုင်ငံ လန်ဒန်မြို့ အမှတ် (၁၀) ဒေါင်းနင်းလမ်းရှိ ဗြိတိသျှဝန်ကြီးချုပ် အိမ်တော်၌ ဗြိတိသျှဝန်ကြီးချုပ် မစ္စတာအက်တလီနှင့် ဗိုလ်ချုပ်အောင်ဆန်းတို့ လက်မှတ်ရေးထိုး ချုပ်ဆိုခဲ့သော စာချုပ်ဖြစ်သည်။

**ပင်လုံစာချုပ်**

၁၉၄၇ခုနှစ် ဖေဖော်ဝါရီလ ၁၂ ရက်တွင် ရှမ်းပြည်နယ်တောင်ပိုင်း ပင်လုံမြို့၌ တိုင်းရင်းသားကိုယ်စားလှယ်များနှင့် ဗိုလ်ချုပ်အောင်ဆန်းတို့ တိုင်းရင်းသားလူမျိုးများအားလုံး သွေးစည်းညီညွတ်ခြင်း အထိမ်းအမှတ်အဖြစ် ချုပ်ဆိုခဲ့သော စာချုပ်ဖြစ်သည်။

**လက်ျာ-ဖရီးမင်းစာချုပ်**

၁၉၄၇ခုနှစ် ဩဂုတ်လ ၂၇ ရက်တွင် တပ်မတော် အနာဂတ်ရေးအတွက် ဗမာ့တပ်မတော် ကာကွယ်ရေးဝန်ကြီး ဗိုလ်လက်ျာနှင့် ဗြိတိသျှတို့ဘက်မှ မစ္စတာဖရီးမင်းတို့ ချုပ်ဆိုခဲ့သော စာချုပ်ဖြစ်သည်။



**နု-အက်တလီစာချုပ်**

၁၉၄၇ ခုနှစ် အောက်တိုဘာလ ၁၇ ရက်တွင် အင်္ဂလန်နိုင်ငံ လန်ဒန်မြို့၌ ဗြိတိသျှဝန်ကြီးချုပ် မစ္စတာအက်တလီနှင့် ဝန်ကြီးချုပ် ဦးနုတို့ လက်မှတ်ရေးထိုး ချုပ်ဆိုခဲ့သော စာချုပ်ဖြစ်သည်။

## ပင်လုံစာချုပ် ချုပ်ဆိုရာတွင် ပါဝင်ကြသူများ

| | | |
|---|---|---|
| ၁။ ဗိုလ်ချုပ်အောင်ဆန်း | - | မြန်မာအစိုးရကိုယ်စားလှယ် |
| ၂။ စဝ်ခွန်ပန်းစိန် | - | တောင်ပိုင်းစော်ဘွား |
| ၃။ စဝ်ရွှေသိုက် | - | ညောင်ရွှေစော်ဘွား |
| ၄။ စဝ်ဟုံဖ | - | မြောက်ပိုင်းသိန္နီစော်ဘွား |
| ၅။ စဝ်နွံ | - | လဲချားစော်ဘွား |
| ၆။ စဝ်စံထွန်း | - | မိုင်းပွန်စော်ဘွား |
| ၇။ စဝ်ထွန်းအေး | - | သာမိုင်းခမ်းစော်ဘွား |
| ၈။ ဦးခွန်ဖုန်း | - | လူထုကိုယ်စားလှယ် (မြောက်ပိုင်း) |
| ၉။ ဦးတင်အေး | - | လူထုကိုယ်စားလှယ် (တောင်ကြီး) |
| ၁၀။ ဦးကြာပု | - | လူထုကိုယ်စားလှယ် (သီပေါ) |
| ၁၁။ စဝ်ယိပ်ဖ | - | လူထုကိုယ်စားလှယ် (သီပေါ) |
| ၁၂။ ဦးခွန်ထီး | - | လူထုကိုယ်စားလှယ် (ပင်လုံ) |
| ၁၃။ ဦးထွန်းမြင့် | - | လူထုကိုယ်စားလှယ် (မောက်မယ်) |
| ၁၄။ ဦးခွန်စော | - | လူထုကိုယ်စားလှယ် (ပင်းတယ) |
| ၁၅။ ဦးဖြူ | - | ဆီဆိုင်စော်ဘွားကိုယ်စားလှယ် |
| ၁၆။ ဆမား ဒူဝါဆင်ဝါးနောင် | - | ကချင်ကိုယ်စားလှယ် (မြစ်ကြီးနား) |
| ၁၇။ ဒူဝါဇော်ရစ် | - | ကချင်ကိုယ်စားလှယ် (မြစ်ကြီးနား) |
| ၁၈။ ဦးဒိန်ရတန် | - | ကချင်ကိုယ်စားလှယ် (မြစ်ကြီးနား) |
| ၁၉။ ဒူဝါဇော်ထွန်း | - | ကချင်ကိုယ်စားလှယ် (ဗန်းမော်) |
| ၂၀။ ဦးလဘန်ဂရောင် | - | ကချင်ကိုယ်စားလှယ် (ဗန်းမော်) |
| ၂၁။ ဦးလွှာမှုန်း | - | ချင်းကိုယ်စားလှယ် (ဖလမ်း) |
| ၂၂။ ဦးသောင်ဇာခုတ် | - | ချင်းကိုယ်စားလှယ် (တီးတိန်) |
| ၂၃။ ဦးကီယိုမန်း | - | ချင်းကိုယ်စားလှယ် (ဟားခါး) |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် သမ္မတအဖြစ် တာဝန်ထမ်းဆောင်ခဲ့သည့် ပုဂ္ဂိုလ်များ

| စဉ် | အမည် | မွေး-ဆုံး | ကာလ | ကိုယ်စားပြုနိုင်ငံရေးပါတီ |
|---|---|---|---|---|
| ၁။ | စပ်ရွှေသိုက် | ၁၈၉၆-၁၉၆၂ | ၄-၁-၁၉၄၈ မှ<br>၁၆-၃-၁၉၅၂ ထိ | ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် |
| ၂။ | ဒေါက်တာဘဦး | ၁၈၈၇-၁၉၆၃ | ၁၆-၃-၁၉၅၂ မှ<br>၁၃-၃-၁၉၅၇ ထိ | ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် |
| ၃။ | မန်းဝင်းမောင် | ၁၉၁၆-၁၉၈၉ | ၁၃-၃-၁၉၅၇ မှ<br>၂-၃-၁၉၆၂ ထိ | ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် |
| ၄။ | ဦးနေဝင်း | ၁၉၁၀-၂၀၀၂ | ၂-၃-၁၉၆၂ မှ<br>၂-၃-၁၉၇၄ ထိ | တပ်မတော် |
| ၅။ | ဦးနေဝင်း | ၁၉၁၀-၂၀၀၂ | ၂-၃-၁၉၆၂ မှ<br>၉-၁၁-၁၉၈၁ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၆။ | ဦးစန်းယု | ၁၉၁၈-၁၉၉၆ | ၉-၁၁-၁၉၈၁ မှ<br>၂၅-၇-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၇။ | ဦးစိန်လွင် | ၁၉၂၄-၂၀၀၄ | ၂၅-၇-၁၉၈၈ မှ<br>၁၂-၈-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၈။ | ဦးအေးကို(ယာယီသမ္မတ) | ၁၉၂၁-၂၀၀၆ | ၁၂-၈-၁၉၈၈ မှ<br>၁၉-၈-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၉။ | ဒေါက်တာမောင်မောင် | ၁၉၂၅-၁၉၉၄ | ၁၉-၈-၁၉၈၈မှ<br>၁၈-၉-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၁၀။ | ဗိုလ်ချုပ်မှူးကြီးစောမောင် | ၁၉၂၈-၁၉၉၇ | ၁၈-၉-၁၉၈၈ မှ<br>၂၃-၄-၁၉၉၂ ထိ | တပ်မတော်<br>(နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၁။ | ဗိုလ်ချုပ်မှူးကြီးသန်းရွှေ | ၁၉၃၃- | ၂၃-၄-၁၉၉၂ မှ<br>၁၅-၁၁-၁၉၉၇ ထိ | တပ်မတော်<br>(နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၂။ | ဗိုလ်ချုပ်မှူးကြီးသန်းရွှေ | ၁၉၃၃- | ၁၅-၁၁-၁၉၉၇ မှ<br>၁၉-၃-၂၀၁၁ | တပ်မတော်<br>(နိုင်ငံတောအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ) |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဝန်ကြီးချုပ်အဖြစ် တာဝန်ထမ်းဆောင်ခဲ့သည့် ပုဂ္ဂိုလ်များ

| စဉ် | အမည် | မွေး-ဆုံး | ကာလ | ကိုယ်စားပြုနိုင်ငံရေးပါတီ |
|---|---|---|---|---|
| ၁။ | ဦးနု(ပထမအကြိမ်) | ၁၉၀၇-၁၉၉၅ | ၄-၁-၁၉၄၈ မှ ၁၂-၆-၁၉၅၆ ထိ | ဖက်ဆစ်ဆန့်ကျင်ရေးပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် |
| ၂။ | ဦးဘဆွေ | ၁၉၁၅-၁၉၈၇ | ၁၂-၆-၁၉၅၆ မှ ၁-၃-၁၉၅၇ ထိ | ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် |
| ၃။ | ဦးနု(ဒုတိယအကြိမ်) | ၁၉၀၇-၁၉၉၅ | ၁-၃-၁၉၅၇ မှ ၂၉-၁၀-၁၉၅၈ ထိ | ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် |
| ၄။ | ဦးနေဝင်း(ပထမအကြိမ်) | ၁၉၁၀-၂၀၀၂ | ၂၉-၁၀-၁၉၅၈ မှ ၄-၄-၁၉၆၀ ထိ | တပ်မတော် |
| ၅။ | ဦးနု(တတိယအကြိမ်) | ၁၉၀၇-၁၉၉၅ | ၄-၄-၁၉၆၀ မှ ၂-၃-၁၉၆၂ ထိ | ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် |
| ၆။ | ဦးနေဝင်း(ဒုတိယအကြိမ်) | ၁၉၁၀-၂၀၀၂ | ၂-၃-၁၉၆၂ မှ ၄-၃-၁၉၇၄ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၇။ | ဦးစိန်ဝင်း | ၁၉၁၉-၁၉၉၃ | ၄-၃-၁၉၇၄ မှ ၂၉-၃-၁၉၇၇ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |



| စဉ် | အမည် | မွေး-ဆုံး | ကာလ | ကိုယ်စားပြုနိုင်ငံရေးပါတီ |
|---|---|---|---|---|
| ၈။ | ဦးမောင်မောင်ခ | ၁၉၂၀-၁၉၉၅ | ၂၉-၃-၁၉၇၇ မှ ၂၆-၇-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၉။ | ဦးထွန်းတင် | ၁၉၃၀- | ၂၆-၇-၁၉၈၈ မှ ၁၈-၉-၁၉၈၈ ထိ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၁၀။ | ဗိုလ်ချုပ်မှူးကြီးစောမောင် | ၁၉၂၈-၁၉၉၇ | ၂၁-၉-၁၉၈၈မှ ၂၃-၄-၁၉၉၂ ထိ | တပ်မတော် (နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၁။ | ဗိုလ်ချုပ်မှူးကြီးသန်းရွှေ | ၁၉၃၃- | ၂၃-၄-၁၉၉၂ မှ ၂၅-၈-၂၀၀၃ ထိ | တပ်မတော် (နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၂။ | ဗိုလ်ချုပ်ကြီးခင်ညွန့် | ၁၉၃၉- | ၂၅-၈-၂၀၀၃ မှ ၁၈-၁၀-၂၀၀၄ ထိ | တပ်မတော် (နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့) |
| ၁၃။ | ဗိုလ်ချုပ်ကြီးစိုးဝင်း | ၁၉၄၉-၂၀၀၇ | ၁၉-၁၀-၂၀၀၄ မှ ၁၂-၁၀-၂၀၀၇ ထိ | တပ်မတော် (နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ) |
| ၁၄။ | ဗိုလ်ချုပ်ကြီး သိန်းစိန် | ၁၉၄၅- | ၁၂-၁၀-၂၀၀၇ ၂၉-၃-၂၀၁၁ | တပ်မတော် (နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ) |

## မြန်မာနိုင်ငံ၏ပထဝီဆိုင်ရာ အချက်အလက်များ

**မြန်မာနိုင်ငံ၏တည်နေရာ**

အာရှတိုက်အရှေ့တောင်ပိုင်းတွင် တည်ရှိပြီး မြောက်လတ္တီတွဒ် ၉ ဒီဂရီ ၃၂ မိနစ်မှ ၂၈ ဒီဂရီ ၃၁ မိနစ်အထိ အရှေ့လောင်ဂျီတွဒ် ၉၂ ဒီဂရီ ၁၀ မိနစ်မှ ၁၀၁ ဒီဂရီ ၁၁ မိနစ်အတွင်း တည်ရှိသည်။

**အကျယ်အဝန်း**

စတုရန်းမိုင်ပေါင်း ၂၆၁၂၂၈ မိုင် ကျယ်ဝန်းသည်။

**မြို့တော်**

နေပြည်တော်

**အိမ်နီးချင်းနိုင်ငံများ**

တရုတ်၊ လာအို၊ ထိုင်း၊ ဘင်္ဂလားဒေ့ရှ်နှင့် အိန္ဒိယနိုင်ငံတို့အကြားတွင် တည်ရှိသည်။

**အမြင့်ဆုံးတောင်ထွတ်**

ခါကာဘိုရာဇီ၊ ပေပေါင်း ၁၉၂၉၆ မြင့်ပြီး ကချင်ပြည်နယ်၊ နောင်မွန်းမြို့ မြောက်ဘက်တွင် တည်ရှိသည်။

**တောင်တန်းများ**

(က) ရခိုင်ရိုးမ
(ခ) တနင်္သာရီရိုးမ
(ဂ) ပဲခူးရိုးမ

**တောင်ကုန်းဒေသများ**

(က) အရှေ့ဘက်ကုန်းမြင့်ဒေသ
(ခ) အနောက်ဘက်တောင်တန်းကြီးများဒေသ
(ဂ) အလယ်ပိုင်းမြေနိမ့်မြစ်ဝှမ်းလွင်ပြင်ဒေသ
(ဃ) ရခိုင်ကမ်းရိုးတန်းမြေနိမ့်လွင်ပြင်ဒေသ



**ကမ်းရိုးတန်း**

ကမ်းရိုးတန်းအရှည် = ၁၃၈၅ မိုင်

**မြန်မာ့ရေပိုင်နက်**

(က) ပိုင်နက်နယ်မြေ = ၁၂ မိုင် (ရေမိုင်)
(ခ) ဆက်စပ်ဇုန် = ၂၄ မိုင် (ရေမိုင်)
(ဂ) သီးသန့်စီးပွားရေးဇုန် = ၂၀၀ မိုင် (ရေမိုင်)

**ထင်ရှားသောမြစ်ကြီးများ**

(က) ဧရာဝတီမြစ် (၁၂၅၀ မိုင်)၊
(ခ) ချင်းတွင်းမြစ် (၇၁၇ မိုင်)၊
(ဂ) စစ်တောင်းမြစ် (၂၆၂ မိုင်)
(ဃ) သံလွင်မြစ် (၇၉၅ မိုင်)

**ဧရာဝတီမြစ်၏ မြစ်ခွဲများ(အဆိုပါမြစ်ခွဲများနှင့် ပင်လယ်အတွင်းသို့စီးဝင်)**

(က) ငဝန်မြစ်(ခေါ်)ပုသိမ်မြစ်
(ခ) ရွှေးမြစ်
(ဂ) ဖျာပုံမြစ်
(ဃ) သက်ကယ်သောင်မြစ်
(င) ပြန်မလေ့မြစ်
(စ) ဘိုကလေးမြစ်
(ဆ) တိုးမြစ်
(ဇ) သံဒိမြစ်
(ဈ) ပြင်စလူမြစ်

**ချင်းတွင်းမြစ်၏ မြစ်လက်တက်များ**

(က) မြစ်သာမြစ်
(ခ) ယူးမြစ်
(ဂ) ဥရုမြစ်

**စစ်တောင်းမြစ်၏ မြစ်လက်တက်များ**

(က) ခပေါင်းချောင်း
(ခ) ရွှေကျင်မြစ်

(ဂ) ရဲနွယ်ချောင်း
(ဃ) ငလိုက်ချောင်း
(င) ဆင်သေချောင်း
(စ) ရေဆင်းချောင်း
(ဆ) ပေါင်းလောင်းမြစ်
(ဇ) ဆွာချောင်း
(ဈ) ဖြူးချောင်း
(ည) ကွန်ချောင်း
(ဋ) ကနိချောင်း
(ဌ) ပသိချောင်း
(ဍ) ပြုံးချောင်း
(ဎ) ကျောက်ကြီးချောင်း
(ဏ) ကျွန်းပခုချောင်း

**သံလွင်မြစ်၏ မြစ်လက်တက်များ**
(က) သောင်ရင်းမြစ်
(ခ) ဟောင်သရောမြစ်
(ဂ) အတ္တရံမြစ်

**တောင်ဘက်မှမြောက်ဘက်သို့စီးဆင်းသောမြစ်များ**
(က) သောင်ရင်းမြစ်
(ခ) ဂျိုင်းမြစ်
(ဂ) အတ္တရံမြစ်
(ဃ) မြစ်သာမြစ်
(င) ဇော်ဂျီမြစ်
(စ) တနင်္သာရီမြစ်လေး

**အရှေ့၊ အနောက်၊ တောင်၊ မြောက်တွင်ရှိသော မြစ်များ**
(က) အရှေ့ဘက်အကျဆုံးမြစ် = မဲခေါင်မြစ်
(ခ) အနောက်ဘက်အကျဆုံးမြစ် = နတ်မြစ်
(ဂ) တောင်ဘက်အကျဆုံးမြစ် = ပါချန်မြစ်
(ဃ) မြောက်ဘက်အကျဆုံးမြစ် = မေခနှင့်မလိခမြစ်



**ထင်ရှားသောအိုင်ကြီးများ**
(က) အင်းတော်ကြီးအိုင်(ကချင်ပြည်နယ်) = အကြီးဆုံးအိုင်
(ခ) အင်းလေးအိုင်(ရှမ်းပြည်နယ်) = ဒုတိယအကြီးဆုံးအိုင်

**တူးမြောင်းများ**
(က) ပဲခူး-စစ်တောင်းတူးမြောင်း (၃၈မိုင်)
(ခ) တွံတေးတူးမြောင်း (၂၂မိုင်)

**အစွန်ဆုံးမြို့များ**
(က) မြောက်ဘက်အကျဆုံးမြို့ = ပန်နန်းဒင်
(ခ) တောင်ဘက်အကျဆုံးမြို့ = ကော့သောင်း
(ဂ) အရှေ့ဘက်အကျဆုံးမြို့ = မိုင်းယောင်း
(ဃ) အနောက်ဘက်အကျဆုံးမြို့ = မောင်တော

**အိမ်နီးချင်းနိုင်ငံများနှင့် နယ်နိမိတ်ထိစပ်မှုအကွာအဝေး**
(က) တရုတ်နိုင်ငံ ၂၂၂၆. ၈၅ ကီလိုမီတာ (၁၃၈၄) မိုင်
(ခ) လာအိုနိုင်ငံ ၂၃၄. ၉၁ ကီလိုမီတာ (၁၃၉) မိုင်
(ဂ) ထိုင်းနိုင်ငံ ၂၀၉၈. ၁၄ ကီလိုမီတာ (၁၃၀၄) မိုင်
(ဃ) ဘင်္ဂလားဒေ့ရှ် ၂၇၁. ၉၂ ကီလိုမီတာ (၁၆၉) မိုင်
(င) အိန္ဒိယနိုင်ငံ ၁၄၅၂. ၉၃ ကီလိုမီတာ (၉၀၃) မိုင်

**အကျယ်ဝန်းဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**
(က) အကျယ်ဝန်းဆုံးတိုင်းဒေသကြီး = စစ်ကိုင်းတိုင်း
(ခ) အကျယ်ဝန်းဆုံးပြည်နယ် = ရှမ်းပြည်နယ်

**အကျဉ်းဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**
(က) အကျဉ်းဆုံးတိုင်းဒေသကြီး = ရန်ကုန်တိုင်း
(ခ) အကျဉ်းဆုံးပြည်နယ် = ကယားပြည်နယ်

**လူဦးရေအများဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**
(က) လူဦးရေအများဆုံးတိုင်းဒေသကြီး = ဧရာဝတီတိုင်း
(ခ) လူဦးရေအများဆုံးပြည်နယ် = ရှမ်းပြည်နယ်

**လူဦးရေအနည်းဆုံးတိုင်းဒေသကြီး၊ ပြည်နယ်**
(က) လူဦးရေအနည်းဆုံးတိုင်းဒေသကြီး=တနင်္သာရီတိုင်း
(ခ) လူဦးရေအနည်းဆုံးပြည်နယ် = ကယားပြည်နယ်

## ဧရာဝတီမြစ်ဆုံစီမံကိန်းဆိုင်ရာအချက်အလက်များ

၁။ ဧရာဝတီမြစ်ဆုံ၊ မေခ၊ မေလိခ မြစ်ညာမြစ်ဝှမ်း ရေအားလျှပ်စစ်စီမံကိန်းများဆိုင်ရာ နားလည်မှုစာချွန်လွှာ(MoU)ကို ၂၀၀၆ ခုနှစ်၊ ဒီဇင်ဘာ ၂၈ ရက်က အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာနနှင့် တရုတ်နိုင်ငံ China Power Investment Coporation (CPI)တို့ ချုပ်ဆိုခဲ့သည်။

၂။ ၂၀၁၁ ခုနှစ်၊ စက်တင်ဘာ ၃၀ ရက်နေ့တွင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် နိုင်ငံတော်သမ္မတ ဦးသိန်းစိန်က မိမိတို့အစိုးရသည် ပြည်သူမှ ရွေးချယ်တင်မြှောက်ထားသည့်အစိုးရဖြစ်၍ ပြည်သူများ၏ဆန္ဒကို အလေးထားရပါမည်။ ပြည်သူများ၏ စိုးရိမ်ပူပန်မှုများကို အလေးထား၍ ဖြေရှင်းဆောင်ရွက်ပေးရန် တာဝန်ရှိပါသည်။ သို့ပါ၍ မိမိတို့အစိုးရလက်ထက်တွင် မြစ်ဆုံဆည်တည်ဆောက်ခြင်းကို မပြုလုပ်စေဘဲ ရပ်ဆိုင်းထားမည်ဖြစ်ကြောင်း ပထမအကြိမ် ပြည်သူ့လွှတ်တော် ဒုတိယပုံမှန်အစည်းအဝေး၊ ပထမအကြိမ် အမျိုးသားလွှတ်တော် ဒုတိယပုံမှန်အစည်းအဝေးတို့သို့ သက်ဆိုင်ရာ လွှတ်တော်ဥက္ကဋ္ဌများထံ သဝဏ်လွှာပေးပို့ခဲ့သည်။

၃။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ၏ ငွေကြေးအရင်းအနှီးဖြင့် ဧရာဝတီမြစ်ဆုံ ရေအားလျှပ်စစ်စီမံကိန်းကို ပထမအဆင့်ဆောင်ရွက်ရန် စတင်ခဲ့ရာ မြစ်ဆုံစီမံကိန်းအတွက် ကုန်ကျစရိတ် အမေရိကန်ဒေါ်လာ သန်း ၃၆၀ အပါအဝင် မေခ၊ မလိခမြစ်ပေါ်ရှိ ရေအားလျှပ်စစ်ဆည် ၇ ခုအတွက် ရင်းနှီးမြှုပ်နှံမှုပမာဏ စုစုပေါင်း အမေရိကန်ဒေါ်လာ သန်း၂၀ ဘီလီယံ သုံးစွဲရမည်။

၄။ ၂၀၀၇ ခုနှစ်၊ ဒီဇင်ဘာလတွင် Changjiang Survey Planning, Design and Research Co.,Ltd (CDC) သည် ဧရာဝတီမြစ်ဆုံ၊ မေခ၊ မလိခမြစ်ညာ မြစ်ဝှမ်း ရေအားလျှပ်စစ်စီမံကိန်းများ ဖွံ့ဖြိုးတိုးတက်မှုဆိုင်ရာ စီမံချက်အစီရင်ခံစာ (Planning Report)ကို အပြီးသတ်ဆောင်ရွက်ခဲ့သည်။ ၂၀၀၈ ခုနှစ်၊ မတ်လတွင် (CDC)သည် မြစ်ကြီးနားအထက်ပိုင်း၊ ဧရာဝတီမြစ် ဖွံ့ဖြိုးတိုးတက်မှုဆိုင်ရာ Term of Reference (TOR) of Environmental Impact Assessment (EIA) Report ကို အပြီးသတ်ဆောင်ရွက်ခဲ့ပြီး ၂၀၀၈ ခုနှစ်၊ ဇွန်လတွင် အတည်ပြုခဲ့သည်။ ၂၀၀၉ ခုနှစ်၊ အောက်တိုဘာလတွင် တရုတ်နိုင်ငံ (CDC) က ဧရာဝတီမြစ်ရှိ မြစ်ဆုံဓာတ်အားပေးစက်ရုံ အထက်ပိုင်းဆိုင်ရာဖြစ်မြောက်နိုင်စွမ်း သုတေသနအစီရင်ခံစာ Feasibility Research Report ကို အပြီးသတ်ဆောင်ရွက်ခဲ့သည်။



၅။ ဧရာဝတီမြစ်ဆုံစီမံကိန်းသည် လျှပ်စစ်ဓာတ်အား မဂ္ဂါဝပ် ၁၈၀၀၀ ခန့် ထုတ်လုပ်နိုင်မည်။ နိုင်ငံတော်၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် မရှိမဖြစ် စီမံကိန်းတစ်ရပ်ဖြစ်သည်။ အဆိုပါလျှပ်စစ်ဓာတ်အားပမာဏသည် ချောင်းကလီးယား ဓာတ်ပေါင်းဖို ၂၀ ခန့်နှင့် ညီမျှသည်။ ချောင်းကလီးယားဓာတ်ပေါင်းဖိုတစ်ခု၏ ကုန်ကျစရိတ်မှာ အမေရိကန်ဒေါ်လာ ၁ ဘီလီယံခန့်ဖြစ်၍ ဒေါ်လာ ဘီလီယံ ၂၀ ခန့် သုံးစွဲရမည်ဖြစ်သည်။ မြစ်ဆုံရေအားလျှပ်စစ်ဓာတ်အားမှာ ပြန်လည်ပြည့်ဖြိုးမြဲ စွမ်းအင်ဖြစ်၍ ဧရာဝတီမြစ်ရေ၏ ခုနစ်ရာခိုင်နှုန်းသာ အသုံးပြုမည်ဖြစ်သည်။ သို့ဖြစ်၍ စနစ်တကျ တွက်ချက်ထားခြင်းဖြစ်၍ မြစ်ကြောင်းတိမ်ကောရန်အတွက် စိုးရိမ်စရာမရှိပါ။ ဧရာဝတီမြစ်ဆုံရေအားလျှပ်စစ်စီမံကိန်း၏ စက်တပ်အင်အားသည် ၆၀၀၀ မဂ္ဂါဝပ် ဖြစ်ပြီး နှစ်စဉ်ပျမ်းမျှထုတ်လုပ်နိုင်သည့် ဓာတ်အားကီလိုဝပ် နာရီ သန်းပေါင်း ၂၉၄၀၀ ဖြစ်သည်။ စီမံကိန်းကာလ ကိုးနှစ်ဖြစ်သည်။

၆။ မြစ်ဆုံစီမံကိန်းအတွက် အလုပ်အကိုင်အခွင့်အလမ်း ၂၆၀၀ ကျော် ဖော်ထုတ် ရရှိခဲ့သည်။ စီမံကိန်းပြီးစီးချိန်တွင် မေခမြစ်၏ အရှေ့ဘက်ကမ်းမှာ မြစ်ဆုံမှ ယိနန် အထိ ၂၆၁ မိုင်ခန့်၊ မလိခမြစ် အနောက်ဘက်ကမ်းမှာ မြစ်ဆုံမှ လိုင်ဇာအထိ မိုင် ၁၇၀ ခန့် လမ်းမကြီးနှစ်လမ်း ပေါ်ပေါက်လာမည်ဖြစ်ပြီး အဆိုပါလမ်းမကြီးများနှင့် ယှဉ်တွဲပြီး တံတားကြီး ခုနစ်စင်း တည်ဆောက်မည်ဖြစ်သည်။

၇။ ၁၇-၉-၂၀၁၁ ရက်နေ့တွင် အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန "ဧရာဝတီမြစ်ဝှမ်း ရေအားလျှပ်စစ်စီမံကိန်းများကြောင့် ဧရာဝတီမြစ်နှင့် သဘာဝပတ်ဝန်းကျင်အပေါ် သက်ရောက်မှုဆိုင်ရာ အလုပ်ရုံဆွေးနွေးပွဲ(၃/၂၀၁၁)ကို နေပြည်တော်ရှိ အမှတ် (၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၌ ကျင်းပသည်။

၈။ ၂၄-၁၂-၂၀၀၈ ခုနှစ်တွင် မြစ်ကြီးနားအထက် ဧရာဝတီမြစ်ဝှမ်းရေအားလျှပ်စစ်ဖွံ့ဖြိုးမှုစီမံကိန်းပတ်ဝန်းကျင်အပေါ်သက်ရောက်မှုပြုလုပ်လေ့လာရန် သဘောတူစာချုပ်ကို တရုတ်နိုင်ငံ ကွမ်မင်းမြို့တွင် BAMCA နှင့် တရုတ်နိုင်ငံ CPI ကုမ္ပဏီလက်မှတ်ရေးထိုးသည်။

**၉။ ရေအားလျှပ်စစ်စီမံကိန်းများပြီးစီးပြီးနောက်တွင် ဖြစ်ပေါ်လာနိုင်သော ဧရာဝတီမြစ် ရေလမ်းကြောင်းအခြေအနေများ**

- ဧရာဝတီမြစ်ဆုံရေအားလျှပ်စစ်စီမံကိန်းသည် ကချင်ပြည်နယ်မြစ်ကြီးနားမြို့၏ မြောက်ဘက် ၂၅ မိုင်ခန့်အကွာ မေခမြစ်နှင့် မလိခမြစ်တို့ပေါင်းဆုံရာ၏ အောက်ဘက် မိုင် ၄၀ ခန့်အကွာ ဧရာဝတီမြစ်ပေါ်တွင် တည်ရှိသည်။

- မြစ်ဆုံရေအားလျှပ်စစ် စီမံကိန်းဖြစ်မြောက်နိုင်စွမ်းအစီရင်ခံစာအရ Concrete Faced Rockfill Dam (CFRD) အမျိုးအစားရေလှောင်တမံဖြစ်သည်။
- တမံအလျား ၄၃၀၀ ပေ၊ အမြင့် ၄၁၈ ပေ
- ရေလှောင်တမံတည်ရှိရာ မြစ်ကြီးနားမြို့၏ နှစ်စဉ်ပျမ်းမျှမိုးရေချိန်မှာ ၉၁ လက်မဖြစ်သည်။
- ရေဆင်းဧရိယာမှာ ၁၈၂၆၂ စတုရန်းမိုင်ဖြစ်ပြီး နှစ်စဉ်ပျမ်းမျှ စီးဝင်ရေမှာ ၁၂၈ ဒသမ ၅၂ သန်း ဧကပေဖြစ်သည်။
- နှစ်စဉ်ပျမ်းမျှထုတ်လုပ်နိုင်မည့်ဓာတ်အားမှာ ၂၉၄၀၀ သန်း ကီလိုဝပ်နာရီဖြစ်ပါသည်။
- ရေလှောင်တမံတည်ဆောက်ပြီးစီးပါက တပ်ဆင်စက်အင်အားမှာ ၆၀၀၀ မဂ္ဂါဝပ်ဖြစ်သည်။
- ၂၀၁၉ ခုနှစ်တွင် တည်ဆောက်ရေးလုပ်ငန်းများ ပြီးစီးနိုင်မည်ဟု ခန့်မှန်းသည်။

၁၀။ မြစ်ဆုံရေအားလျှပ်စစ်စီမံကိန်းရပ်ဆိုင်းထားခြင်းအတွက် နိုင်ငံတော်သမ္မတ၏ အထူးကိုယ်စားလှယ်အဖြစ် နိုင်ငံခြားရေးဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီး ဦးဝဏ္ဏမောင်လွင်သည် တရုတ်နိုင်ငံခြားရေးဝန်ကြီး Yang Jiechi နှင့် ၁၀-၁၀-၂၀၁၁ ရက်နေ့ ပေကျင်းမြို့၌ တွေ့ဆုံရာတွင် မြစ်ဆုံရေအားလျှပ်စစ်စီမံကိန်းနှင့် ပတ်သက်ပြီး အသေးစိတ်ဆွေးနွေးခဲ့ကြသည်။

၁၁။ မြစ်ဆုံရေအားလျှပ်စစ်စီမံကိန်းကြောင့် စီမံကိန်းဧရိယာနှင့် မလွတ်ကင်းသော တန်ဖဲ၊ ကျိန်ခရမ်၊ မြစ်ဆုံ၊ ခပ္ပါး/အောင်ဂျာယန်၊ ဒေါင်ပန်ရွာ ငါးရွာမှ စုစုပေါင်း အိမ်ထောင်စု ၄၁၀၊ လူဦးရေ ၂၁၄၆ ဦး၏ ပြန်လည်နေရာချထားမှုအစီအမံအား နိုင်ငံတော်အစိုးရ၏ အနီးကပ်လမ်းညွှန်မှု၊ အမှတ်(၁) လျှပ်စစ်စွမ်းအားဝန်ကြီးဌာန နှင့် ဒေသခံအာဏာပိုင်အဖွဲ့အစည်းအသီးသီး၏ ဟန်ချက်ညီကြီးကြပ်ကွပ်ကဲမှုဖြင့် ဆောင်ရွက်ခဲ့သည်။

- တန်ဖဲ၊ ကျိန်ခရမ်၊ မြစ်ဆုံရွာ သုံးရွာအား အောင်မြေသာစံပြကျေးရွာသစ်
- ခပ္ပါး/အောင်ဂျာယန်၊ ဒေါင်ပန်ရွာ နှစ်ရွာကို မလိယန်ကျေးရွာသစ် အဖြစ်လည်းကောင်း ယင်းတို့၏ နဂိုရှိရင်းစွဲအဆင့်အတန်းထက် ပိုမိုကောင်းမွန်မြင့်မားစွာ တည်ဆောက်အကောင်အထည်ဖော်နေရာချထားပေးခဲ့သည်။ စံပြကျေးရွာသစ်များတွင် စုစုပေါင်း လူနေသစ်သား နှစ်ထပ်အိမ် ၄၁၀ လုံး၊ အထက်တန်းကျောင်း တစ်ကျောင်းနှင့် တိုးချဲ့နှစ်ထပ်ဆောင် တစ်ဆောင်၊ မူလတန်းကျောင်း သုံးကျောင်း၊ ရဲစခန်း တစ်ခု၊ စာတိုက် တစ်ခု၊ မီးသတ်အဆောက်အအုံတွဲလျက် အထွေထွေအုပ်ချုပ်ရေးရုံး တစ်ရုံး၊ ၁၆ ခုတင်ဆန့် ဆေးရုံတစ်ရုံ၊ ဗုဒ္ဓဘာသာ/ခရစ်ယာန်ဘာသာရေးအဆောက်အအုံ လေးလုံးတို့ကို ဆောက်လုပ်ပေးခဲ့သည်။



**မြစ်ဆုံရေအားလျှပ်စစ်စီမံကိန်းနှင့်ပတ်သက်၍ ပညာရှင်များထောက်ပြချက်များ**

၁၂။ ဧရာဝတီမြစ်၏ ရေဝေ ရေလဲဒေသများတွင် သစ်တောများပြုန်းတီးလာခြင်း၊ မြစ်လက်တက်များတွင် ဆည်တည်ဆောက်ခြင်း၊ ရွှေနှင့်ဓာတ်သတ္တုများ အလွန်အကျွံတူးဖော်ခြင်း၊ မြစ်ကမ်းနံဘေးတွင် ဓာတ်မြေသြဇာစက်ရုံများ တည်ဆောက်ခြင်း၊ ရွှေ့ပြောင်းတောင်ယာနှင့် စိုက်ပျိုးမြေများ ချဲ့ထွင်လာခြင်းတို့ကြောင့် သောက်သုံးရေရှားပါးလာခြင်း၊ သောင်ထွန်းမှု ပိုမိုများပြားလာသဖြင့် ရေကြောင်းသွားလာမှုခက်ခဲလာခြင်း၊ ငါးသယံဇာတ ရှားပါးလာခြင်းနှင့် မြစ်ကျိုးအင်းများ တိမ်ကောလာမှုတို့ကြောင့် ဒေသခံလူထုများ အသက်မွေးမှုကို ထိခိုက်ခြင်း၊ မိုးတွင်းကာလတွင် မြစ်ရေကြီးမှုကြောင့် ရေလွှမ်းမိုးမှုများဖြစ်ပေါ်ခြင်း စသည်များ ကြုံတွေ့နေရသည်။ သို့ဖြစ်၍ မြစ်၏အထက်ပိုင်းမြစ်ဆုံဒေသတွင် ရေများကို ပိတ်ဆို့၍ ဆည်တည်ဆောက်ပါက ယခုရင်ဆိုင်နေရသော အခြေအနေများ ပိုမိုဆိုးရွားသွားနိုင်ပြီး မြစ်တိမ်ကောမည့်အန္တရာယ်နှင့် ရင်ဆိုင်ရဖွယ်ရှိကြောင်း ပညာရှင်များမှ ထောက်ပြသည်။

## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၃၀-၃-၂၀၁၁) ရက်နေ့ ပထမအကြိမ် ပြည်ထောင်စုလွှတ်တော် ပုံမှန်အစည်းအဝေးတွင် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

- သမိုင်းရဲ့သင်ခန်းစာတွေအရ ပြည်ထောင်စုမပြိုကွဲရေး၊ တိုင်းရင်းသားစည်းလုံးညီညွတ်မှု မပြိုကွဲရေးနဲ့ အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေးဆိုတဲ့ ဒို့တာဝန်အရေးသုံးပါးဟာ ကျွန်တော်တို့ လက်ထက်သာမက နောင် သားစဉ်မြေးဆက် လက်ထက်အထိပါ ကမ္ဘာတည်သရွေ့ နိုင်ငံသားတိုင်း လိုက်နာစောင့်ရှောက် ကာကွယ်သွားကြရမယ့် အမျိုးသားရေးတာဝန်ဖြစ်တဲ့အတွက် ကျွန်တော်တို့ အစိုးရလက်ထက်မှာလည်း ဒီတာဝန်ကြီးသုံးရပ်ကို ဦးထိပ်ပန်ဆင်ပြီး ဆက်လက်သယ်ဆောင်သွားမှာဖြစ်ပါတယ်။
- ဒီတာဝန်ကြီးသုံးရပ်ကို အောင်အောင်မြင်မြင် ထမ်းဆောင်နိုင်ဖို့အတွက် ကျွန်တော်တို့ နိုင်ငံမှာ အင်အားသုံးရပ် တောင့်တင်းနေဖို့လိုပါတယ်။ အဲဒီအင်အားတွေကတော့-

    (၁) နိုင်ငံရေးအင်အား

    (၂) စီးပွားရေးအင်အားနဲ့

    (၃) နိုင်ငံတော်ကာကွယ်ရေးအင်အားတို့ဖြစ်ပါတယ်။
- နိုင်ငံရေးအင်အားဆိုတာကတော့ တိုင်းရင်းသားစည်းလုံး ညီညွတ်ရေးပဲဖြစ်ပါတယ်။ တိုင်းရင်းသားစည်းလုံးညီညွတ်ရေးဆိုတာ ယခင် အတွေ့အကြုံများအရ ပါးစပ်ကပြောနေရုံနဲ့ မရပါဘူး။ စားပွဲမှာထိုင်ပြီး ဆွေးနွေးနေရုံနဲ့လည်း ဖြစ်မလာနိုင်ပါဘူး။ ပထဝီအနေအထားအရ ရေခြားမြေခြားဖြစ်နေတဲ့ ကျွန်တော်တို့တိုင်းရင်းသားတွေနေထိုင်တဲ့ ဒေသတွေကို တစ်ဆက်တစ်စပ်တည်းဖြစ်သွားအောင် ကားလမ်းတွေ၊ မီးရထားလမ်းတွေ ဖောက်ပေးရပါမယ်။ တံတားတွေ ဆောက်ပေးရပါမယ်။ ပညာရေး၊ ကျန်းမာရေး အဆင့်အတန်းတွေ မြှင့်တင်ပေးရပါမယ်။ တိုင်းရင်းသားတွေရဲ့ လူမှုစီးပွားဘဝ တိုးတက်မြင့်မားလာအောင် စီးပွားရေးအခြေခံကောင်းတွေ ပြုလုပ်ပေးရပါမယ်။ ဒီလမ်းတွေ၊ တံတားတွေ၊ စာသင်ကျောင်းတွေ၊ ဆေးရုံဆေးခန်းတွေကို အသုံးချပြီး တိုင်းရင်းသားတွေရဲ့ လူမှုဘဝမြင့်မားလာအောင် မြှင့်တင်ပေးရမှာဖြစ်ပါတယ်။



- ယခုလို ရုပ်ပိုင်းဆိုင်ရာသာမက တိုင်းရင်းသားစည်းလုံးညီညွတ်ရေးရဲ့ အခြေခံဖြစ်တဲ့ စစ်မှန်တဲ့ မျိုးချစ်စိတ်ဓာတ်ဖြစ်သော ပြည်ထောင်စုစိတ်ဓာတ် ထွန်းကားအောင်လည်း ဆောင်ရွက်သွားမှာဖြစ်ပါတယ်။
- မတူညီတဲ့သဘောထားအမြင်တွေရှိကြမှာဖြစ်သော်လည်း တိုင်းပြည်ရဲ့အကျိုးစီးပွားအတွက် တူညီတဲ့ကိစ္စတွေမှာ ပူးပေါင်းပါဝင်ဆောင်ရွက်ကြမယ်၊ ဒီမိုကရေစီကျင့်စဉ်နဲ့အညီ ရွေးကောက်ပွဲမှာ ပါဝင်ယှဉ်ပြိုင်ကြပြီး လုပ်ပိုင်ခွင့်အာဏာကို တရားနည်းလမ်း ကျနစွာဖြင့် ရယူကြမယ်ဆိုရင် လူသာစုခေါ်၊ နတ်သာစုခေါ်ကြမှာဖြစ်တဲ့အတွက် ကျွန်တော်တို့အစိုးရအဖွဲ့အနေနဲ့ ငြိမ်းချမ်းရေး တံခါးကိုဖွင့်ထားပြီး လက်ကမ်းကြိုဆိုနေမှာဖြစ်ကြောင်း အသိပေးပြောကြားအပ်ပါတယ်။
- ဒုတိယအင်အားကတော့ စီးပွားရေးအင်အားတောင့်တင်းအောင် ဆောင်ရွက်ဖို့ဖြစ်ပါတယ်။ စီးပွားရေးအင်အား မတောင့်တင်းရင် သူတစ်ပါးရဲ့ အထင်အမြင်သေးမှု၊ နှိမ့်ချမှုကိုခံရမှာဖြစ်ပါတယ်။။ စီးပွားရေးဟာ နိုင်ငံရေးရဲ့ ကွင်းဆက်လည်းဖြစ်ပါတယ်။
- ကျွန်တော်တို့နိုင်ငံဟာ စိုက်ပျိုးရေးနိုင်ငံဆိုပြီး အစိုးရအဆက်ဆက် စိုက်ပျိုးရေးကိုပဲ ဇောင်းပေးပြီး လုပ်ခဲ့ကြပါတယ်။ အဲဒီလို လုပ်ခဲ့တဲ့အတွက် စားရေရိက္ခာဖူလုံမှုရှိတဲ့အပြင် ပိုလျှံမှုလည်းရှိပါတယ်။ နောင်တိုးလာမယ့် လူဦးရေအတွက်လည်း စားနပ်ရိက္ခာအတွက် ပူပင်ကြောင့်ကြမှုမရှိရအောင် ဆည်မြောင်းတာတမံတွေ၊ မြစ်ရေတင်လုပ်ငန်းတွေ စသည်ဖြင့် လယ်ယာကဏ္ဍအခြေခံကောင်းတွေ ရှိနေပြီဖြစ်ပါတယ်။ သို့သော်လည်း စိုက်ပျိုးရေးနဲ့ချမ်းသာကြွယ်ဝတဲ့နိုင်ငံ ဖြစ်မလာနိုင်တဲ့အတွက် ခေတ်မီဖွံ့ဖြိုးတိုးတက်တဲ့နိုင်ငံ၊ ချမ်းသာကြွယ်ဝတဲ့နိုင်ငံ၊ အလုပ်အကိုင်တွေပေါများပြီး လူတစ်ဦးချင်းဝင်ငွေတွေ တိုးပွားတဲ့နိုင်ငံဖြစ်အောင် စက်မှုနိုင်ငံ ထူထောင်ရပါမယ်။
- ဒါကြောင့် ကျွန်တော်တို့အစိုးရအနေနဲ့ လက်ရှိတိုးတက်မှုရှိနေတဲ့ စိုက်ပျိုးရေးကဏ္ဍကို အရှိန်အဟုန်မပျက် ဆက်လက်တိုးတက်အောင် ဆောင်ရွက်ရင်း စက်မှုနိုင်ငံအဖြစ် ကူးပြောင်းနိုင်အောင် ကြိုးပမ်းဆောင်ရွက်သွားမှာဖြစ်ပါတယ်။

- နိုင်ငံတော်ကာကွယ်ရေးအင်အား မတောင့်တင်းရင် သူတစ်ပါးရဲ့ အနိုင်အထက် ပြုကျင့်မှုကို ခံကြရမှာဖြစ်ပါတယ်။ ကိုယ့်မင်း ကိုယ့်ချင်း၊ ကိုယ့်ထီး ကိုယ့်နန်းနဲ့ နှစ်ပေါင်းရာထောင်ချီပြီး နေလာခဲ့ကြတဲ့ လူမျိုးဘဝက ကုန်းဘောင်ခေတ် ဇာတ်သိမ်းခန်းမှာ နယ်ချဲ့လက်အောက်ကို လွယ်လွယ်ကလေးနဲ့ ကျရောက်ခဲ့ရခြင်းဟာ ခေတ်မီတဲ့ တပ်မတော်တစ်ရပ် မရှိခဲ့လို့ဖြစ်ပါတယ်။ နိုင်ငံတော်ကာကွယ်ရေးကို ပေါ့ပေါ့တန်တန်နဲ့ သဘောထားကြရင် ခေတ်သစ်ကျွန်ပြုခံရခြင်းမျိုးနဲ့ ကြုံတွေ့ကြရဦးမှာဖြစ်ပါတယ်။။
- ဒါကြောင့် နိုင်ငံတော်ကိုကာကွယ်ဖို့အတွက် ကမ္ဘာ့အဆင့်မီ တပ်မတော်တစ်ရပ် ရှိဖို့လိုအပ်ပါတယ်။ လက်ရှိတပ်မတော်ကို အင်အားတောင့်တင်းတဲ့ တပ်မတော်၊ စွမ်းရည်ရှိတဲ့တပ်မတော်၊ ခေတ်မီတဲ့တပ်မတော်၊ မျိုးချစ်စိတ်ထက်သန်တဲ့ တပ်မတော်ဖြစ်အောင် အားလုံးဝိုင်းပြီး တည်ဆောက်ကြရပါမယ်။ နိုင်ငံတော်ကာကွယ်ရေးအတွက် နိုင်ငံသားတိုင်းမှာ တာဝန်ရှိပါတယ်။ ဒါကြောင့် နိုင်ငံတော်ကာကွယ်ရေးကို နိုင်ငံသားအားလုံး ဝိုင်းပြီး တာဝန်ယူကြရမှာဖြစ်ပါတယ်။
- ကျွန်တော်တို့အနေနဲ့ ဈေးကွက်စီးပွားရေးစနစ် ပီပီပြင်ပြင် ပေါ်ပေါက်လာဖို့၊ နိုင်ငံနဲ့ပြည်သူရဲ့ အနာဂတ်လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်မြင့်မားလာဖို့အတွက် အရှိန်မြှင့် ဆောင်ရွက်သွားကြရမှာဖြစ်သလို ဘဏ္ဍာရေးနဲ့ ငွေကြေးဆိုင်ရာ၊ အခွန်အကောက်ဆိုင်ရာ မူဝါဒများကိုလည်း လိုအပ်သလို ပြင်ဆင်ချမှတ်ကျင့်သုံးဆောင်ရွက်သွားရမှာဖြစ်ပါတယ်။
- ဈေးကွက်စီးပွားရေးဆိုရာမှာ ကျွန်တော်တို့အနေနဲ့ နိုင်ငံနဲ့ပြည်သူ ဖွံ့ဖြိုးတိုးတက်မှုကို ရှေးရှုပြီး ဖွင့်သင့်တာဖွင့်၊ ပြင်သင့်တာပြင်၊ ဖိတ်ခေါ်သင့်တာ ဖိတ်ခေါ်ပြီး ပီပီပြင်ပြင် ဆောင်ရွက်သွားမယ့် ဈေးကွက်စီးပွားရေးစနစ်မျိုးကို ရည်မှန်းထားပါတယ်။ အဲဒီလိုပြုပြင် ပြောင်းလဲလုပ်ဆောင်ပြီး ဖြစ်ထွန်းသီးပွင့်လာတဲ့ အကျိုးစီးပွားများကိုလည်း အခြေခံလူတန်းစား အောက်ခြေအဆင့်အထိ ပြည်သူတစ်ရပ်လုံးဆီကို စီးဆင်းပျံ့နှံ့ရောက်ရှိစေပြီး အသီးသီးမျှဝေခံစားနိုင်အောင် ရည်မှန်းဆောင်ရွက်သွားပါ့မယ်။ အဲဒီလို အောက်ခြေအထိ အကျိုးစီးပွားတွေ စီးဆင်းပျံ့နှံ့ခံစားနိုင်ပြီး ပြည်သူတစ်ရပ်လုံးရဲ့ လူမှုစီးပွားဘဝ တိုးတက်မြင့်မားလာအောင် ရည်မှန်းကာ လိုအပ်တဲ့မူဝါဒတွေ၊ ဥပဒေတွေ ချမှတ်ပြဋ္ဌာန်းဆောင်ရွက်သွားမှာဖြစ်ပါတယ်။



- ကျွန်တော်တို့အနေနဲ့ကတော့ အစိုးရက အတိုင်းအတာတစ်ရပ်အထိ ထိန်းသိမ်းပံ့ပိုးဆောင်ရွက်ပေးတဲ့ ဈေးကွက်စီးပွားရေးစနစ်မျိုးကို ရည်မှန်းပါတယ်။
- အမျိုးသားအကျိုးစီးပွားကို အခြေခံပြီး ဝင်ရောက်ထိန်းကျောင်းမှုမျိုးသာ လုပ်သွားမှာဖြစ်တဲ့အပြင် တတ်နိုင်သမျှ ဝင်ရောက်စွက်ဖက်မှု၊ ထိန်းချုပ်မှု အနည်းဆုံးဖြစ်အောင် ရပ်တည်ဆောင်ရွက်သွားမှာဖြစ်ပါတယ်။
- တောင်သူလယ်သမား အခွင့်အရေးများကို ကာကွယ်စောင့်ရှောက်တဲ့ ဥပဒေများ၊ အစဉ်ခေတ်မီပြည့်စုံနေအောင် ပြဋ္ဌာန်းဆောင်ရွက်သွားမှာဖြစ်ပါတယ်။ စိုက်ပျိုးရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ရေး၊ လယ်ယာထွက်ကုန်များ သင့်တင့်သော ဈေးနှုန်းရရှိရေး၊ လယ်ယာထွက်ကုန်များ အရည်အသွေးမြင့်မားရေးတို့ကိုလည်း မြှင့်တင်လုပ်ဆောင်သွားမှာဖြစ်ပါတယ်။
- အလုပ်သမားများနှင့် တစ်နေ့စာတစ်နေ့ ရှာဖွေစားကြရတဲ့ လက်လုပ်လက်စားသမားများအတွက်လည်း အဓိကအားဖြင့် အလုပ်အကိုင်အခွင့်အလမ်းပေါ်များရေး၊ ကုန်ဈေးနှုန်း တည်ငြိမ်ရေး၊ လုပ်ငန်းခွင်သက်သာချောင်ချိရေး၊ လူမှုဖူလုံရေးခံစားခွင့်များ ရရှိရေးတို့ကို ဆောင်ရွက်ပေးသွားမှာဖြစ်တဲ့အပြင် အခြားတစ်ဖက်ကလည်း အနိမ့်ဆုံးလစာ သတ်မှတ်ချက်ကို လက်ရှိဖြစ်ပေါ်နေတဲ့ လူနေမှုစရိတ်နဲ့ မျှတလိုက်လျောညီထွေဖြစ်အောင် ညှိနှိုင်းကြိုးပမ်းဆောင်ရွက်ပေးသွားမှာဖြစ်ပါတယ်။
- ပြည်တွင်းမှာရှိတဲ့ အလုပ်သမားများရဲ့ အခွင့်အရေးများသာမက ပြည်ပမှာ လုပ်ကိုင်နေတဲ့ မြန်မာနိုင်ငံသား အလုပ်သမားများရဲ့ တရားဝင်အခွင့်အရေးများ အပြည့်အဝရရှိနိုင်ဖို့အတွက်ကိုလည်း ကြိုးပမ်းလုပ်ဆောင်ပေးသွားမှာဖြစ်ပါတယ်။
- ကျွန်တော်တို့နိုင်ငံကို ခေတ်မီတဲ့၊ ဖွံ့ဖြိုးတဲ့၊ တိုးတက်တဲ့ ဒီမိုကရေစီနိုင်ငံတော်သစ်အဖြစ် တည်ဆောက်ရာမှာ ထူးချွန်တဲ့ လူ့စွမ်းအားအရင်းအမြစ်ဖြစ်တဲ့ အသိပညာရှင်၊ အတတ်ပညာရှင်တွေ အများကြီးလိုအပ်မှာဖြစ်ပါတယ်။ အနာဂတ်နိုင်ငံတော်ကို တာဝန်ယူ ဆောင်ရွက်ကြရမယ့် မျိုးဆက်သစ်လူငယ်များအပါအဝင် တစ်နိုင်ငံလုံးရဲ့ လူ့စွမ်းအားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်ရေးဟာ အခြေခံကျတဲ့ လိုအပ်ချက်ဖြစ်ပါတယ်။ ဒါကြောင့် ကျွန်တော်တို့အနေနဲ့ ပညာရေးကဏ္ဍကို နိုင်ငံတကာအဆင့်မီ မြင့်မားလာအောင် တိုးတက်မြှင့်တင်

ဆောင်ရွက်ပေးသွားမှာဖြစ်သလို လူ့စွမ်းအားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်ရေးကိုလည်း အလေးထား အားပေးဆောင်ရွက်သွားရမှာပဲဖြစ်ပါတယ်။

- နိုင်ငံတကာအဆင့်မီ ပညာရေးအဆင့်အတန်းကို တက်လှမ်းနိုင်ဖို့ ကုလသမဂ္ဂအပါအဝင် နိုင်ငံတကာအဖွဲ့အစည်းများ၊ နိုင်ငံတကာ အစိုးရမဟုတ်သော အဖွဲ့အစည်းများ၊ ပြည်တွင်း လူမှုရေးအသင်းအဖွဲ့များနဲ့လည်း ပူးပေါင်းလုပ်ဆောင်သွားမှာဖြစ်ပါတယ်။
- တစ်ဖက်ကလည်း ပုဂ္ဂလိကကဏ္ဍ ပညာရေးဝန်ဆောင်မှုများကို သက်ဆိုင်ရာ ဥပဒေပြဋ္ဌာန်းပြီး စနစ်တကျ ဖော်ဆောင်နိုင်အောင် ဆောင်ရွက်သွားပါ့မယ်။ ဒါ့အပြင် ပြည်ပမှာ အဆင့်မြင့်ပညာများကို သင်ယူလေ့လာနိုင်ဖို့အတွက် ပညာတော်သင်ဆုများ၊ ပြည်တွင်းမှာ ပညာရည်ထူးချွန်သူများအတွက် ပညာသင်ထောက်ပံ့ကြေးများကိုလည်း ထောက်ပံ့ပေးသွားမှာဖြစ်ပါတယ်။
- ကျန်းမာရေးကဏ္ဍမှာဆိုရင်လည်း ပြီးခဲ့တဲ့ဆယ်စုနှစ် နှစ်စုအတွင်း တိုးချဲ့ဖွင့်လှစ်ခဲ့တဲ့ ဆေးရုံကြီးများရဲ့ အရည်အသွေးနဲ့ ကျန်းမာရေး ဝန်ထမ်းများရဲ့ အရည်အသွေးမြင့်မားရေးကို အလေးထားလုပ်ဆောင်သွားမှာဖြစ်ပါတယ်။ ဒါ့အပြင် ကျေးလက်ကျန်းမာရေး ဆေးပေးခန်းများနဲ့ ကျန်းမာရေး လုပ်သားများရဲ့ အရည်အသွေးနဲ့ ကျွမ်းကျင်မှုများကိုလည်း မြှင့်တင်ပေးသွားမှာဖြစ်ပါတယ်။ ဒီလိုလုပ်နိုင်ဖို့အတွက် ကုလသမဂ္ဂအပါအဝင် နိုင်ငံတကာ အဖွဲ့အစည်းများ၊ နိုင်ငံတကာအစိုးရမဟုတ်သော အဖွဲ့အစည်းများ၊ ပြည်တွင်း လူမှုရေးအသင်းအဖွဲ့များနဲ့လည်း ပူးပေါင်းလုပ်ဆောင်သွားမှာဖြစ်ပါတယ်။
- ဒါ့အပြင် ပုဂ္ဂလိကကျန်းမာရေးစောင့်ရှောက်မှုနဲ့ပတ်သက်ပြီး စနစ်တကျရှိစေရေးအတွက် လိုအပ်တဲ့ဥပဒေများ ပြဋ္ဌာန်းဆောင်ရွက်သွားဖို့လည်း ရှိပါတယ်။ အနာဂတ်မှာ နိုင်ငံတော်၊ ပြည်သူနဲ့ ပရဟိတအဖွဲ့အစည်းများ ပူးပေါင်းပါဝင်တဲ့ ကျန်းမာရေးစောင့်ရှောက်မှု စနစ်တစ်ခုကို ထူထောင်ပြီး အခြေခံကျန်းမာရေး စောင့်ရှောက်မှုလုပ်ငန်းများကို တိုးချဲ့ဆောင်ရွက်သွားဖို့ ရည်မှန်းထားပါတယ်။
- ဥပဒေအရာမှာ နိုင်ငံသားအားလုံး တန်းတူခံစားခွင့်ရရှိအောင် အကာအကွယ်ပေးသွားမှာဖြစ်ပြီး တရားရေးမဏ္ဍိုင်ကိုလည်း ခိုင်ခံ့အောင် တည်ဆောက်ပေးသွားမှာဖြစ်ပါတယ်။



- **လာဘ်ပေးလာဘ်ယူ**မှုဟာ လူတစ်ဦးချင်း ထိခိုက်စေသည်သာမက နိုင်ငံနဲ့ လူမျိုးရဲ့ ဂုဏ်သိက္ခာကိုပါ ထိခိုက်စေတဲ့အတွက် ပြည်သူရဲ့ အကူအညီကို ရယူပြီး ထိရောက်စွာ တားဆီးသွားပါမယ်။
- သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနဲ့ပတ်သက်ရင် သစ်တောသစ်ပင် ထိန်းသိမ်းရေးကို အလေးထားမှာဖြစ်သလို လေထုညစ်ညမ်းမှုနဲ့ ရေထုညစ်ညမ်းမှုများ လျှော့ချရေး၊ စက်ရုံသုံးစွန့်ပစ်ပစ္စည်းများ ထိန်းသိမ်းကြပ်မတ်ရေး၊ သဘာဝသားငှက်တိရစ္ဆာန်များ ထိန်းသိမ်းစောင့်ရှောက်ရေးလုပ်ငန်းများကိုလည်း ဘက်စုံထောင့်စုံက ဆောင်ရွက်သွားမှာဖြစ်ပါတယ်။
- ကျွန်တော်တို့ဟာ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုနဲ့ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး လိုအပ်ချက်ကို ဟန်ချက်ညီညီနဲ့ ထိန်းညှိဆောင်ရွက်ပေးမယ့် မူဝါဒတစ်ရပ်ကို ချမှတ်သွားမှာဖြစ်ပါတယ်။
- လွတ်လပ်ရေးရရှိချိန်ကစတင်ပြီး နိုင်ငံ့တာဝန်ကိုယူခဲ့တဲ့ အစိုးရအဆက်ဆက်ဟာ နိုင်ငံရေး၊ စီးပွားရေးမူဝါဒများ၊ သဘောတရားရေးရာများမှာသာ ကွဲပြားခြားနားမှုရှိခဲ့ပေမယ့် နိုင်ငံခြားရေးမူဝါဒမှာတော့ ဘက်မလိုက်တဲ့၊ လွတ်လပ်ပြီး တက်ကြွတဲ့ နိုင်ငံခြားရေးမူဝါဒကိုကျင့်သုံးခြင်း၊ ငြိမ်းချမ်းစွာ အတူယှဉ်တွဲနေထိုင်ရေးမူကြီး (၅)ချက်နဲ့အညီ နိုင်ငံတကာဆက်ဆံရေးကို ကျင့်သုံးခြင်းများမှာ တူညီခဲ့ကြပါတယ်။
- မည်သည့်နိုင်ငံကိုမှ ရန်စကျူးကျော်ခြင်း၊ ပြည်တွင်းရေး ဝင်ရောက်စွက်ဖက်ခြင်းမရှိခဲ့တာ၊ နိုင်ငံတကာနဲ့ဒေသတွင်း ငြိမ်းချမ်းရေး၊ လုံခြုံရေးကို ထိပါးမှု မပြုခဲ့တာတို့ဟာ အစဉ်အဆက် မြန်မာ့နိုင်ငံခြားရေးမူဝါဒရဲ့ ဂုဏ်ယူစရာ အချက်များပဲ ဖြစ်ပါတယ်။
- ကျွန်တော်တို့ အစိုးရအဖွဲ့အနေနဲ့လည်း အဲဒီဂုဏ်ယူဖွယ်ရာ နိုင်ငံခြားရေးမူဝါဒ အစဉ်အလာများကိုပဲ မယိမ်းမယိုင် ဆက်ခံကျင့်သုံးသွားမှာဖြစ်ပြီး နိုင်ငံအားလုံးနဲ့ မိတ်ဝတ်မပျက် ဆက်ဆံသွားမှာဖြစ်ပါတယ်။
- ဒီမိုကရေစီစနစ်ကိုပြောင်းလဲရာမှာ မိမိတို့ လွှတ်တော်ကိုယ်စားလှယ်များ အတွင်းမှာ ဒီမိုကရေစီကျင့်စဉ်များ ထွန်းကားအောင် ဆောင်ရွက်ဖို့လိုသလို ပြည်သူလူထုအတွင်းမှာလည်း ဒီမိုကရေစီကျင့်စဉ်များ ထွန်းကားအောင် ဆောင်ရွက်ဖို့လိုပါတယ်။ ဒီလုပ်ငန်းတွေကိုလုပ်ဆောင်တဲ့အခါ ကျွန်တော်တို့

အစိုးရအဖွဲ့ဟာ လွှတ်တော်အတွင်းရှိ နိုင်ငံရေးပါတီများ၊ လွှတ်တော်ပြင်ပရှိ စိတ်ရင်းစေတနာ မှန်ကန်တဲ့ နိုင်ငံရေးအင်အားစုများ၊ အရပ်ဘက်လူမှုအဖွဲ့အစည်းများအားလုံးနဲ့ ပူးပေါင်းဆောင်ရွက်သွားမှာဖြစ်ကြောင်း ကတိပြုပြောကြားလိုပါတယ်။

- ✦ မြန်မာနိုင်ငံနဲ့ နိုင်ငံသူနိုင်ငံသားများရဲ့ အကျိုးစီးပွားကို လိုလားသူတိုင်းဟာ အခြေခံဥပဒေဘောင်ထဲကသာ နိုင်ငံနဲ့ လူမျိုးအကျိုး ဆောင်ရွက်ကြဖို့နဲ့ အခြေခံဥပဒေပြင်ပ နည်းလမ်းများကျင့်သုံးပြီး လက်ရှိဒီမိုကရေစီဖော်ဆောင်မှုကို ပျက်ပြားအောင်၊ တရားဥပဒေ စိုးမိုးမှုနဲ့ တည်ငြိမ်အေးချမ်းမှု ပျက်ပြားအောင် လုပ်ဆောင်ခြင်းများ မပြုကြဖို့ တိုက်တွန်းပြောကြားလိုပါတယ်။
- ✦ အထူးသဖြင့် မြန်မာ့နိုင်ငံရေးမှာ အစဉ်အလာလိုဖြစ်နေတဲ့ အစိုးရနဲ့ အတိုက်အခံဆိုတဲ့ ပဋိပက္ခအသွင်ဆောင်တဲ့ အမြင်သဘောထားများကို ကိုင်စွဲခြင်းမပြုဘဲ အမျိုးသားအကျိုးစီးပွားအပေါ် အခြေခံပြီး လုပ်ဖော်ကိုင်ဖက်များအဖြစ် သဘောထားလက်တွဲ ဆောင်ရွက်သွားကြဖို့လည်း အားလုံးကိုတိုက်တွန်းလိုပါတယ်။



## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၃၁-၃-၂၀၁၁) ရက်နေ့တွင် ပြည်ထောင်စုအဆင့် အဖွဲ့အစည်းများမှ အကြီးအကဲများ၊ ပြည်ထောင်စုအစိုးရအဖွဲ့ဝင်များအား ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

- ✦ အစိုးရအဖွဲ့သစ်ရဲ့ အရေးကြီးဆုံးလုပ်ငန်းစဉ်ကတော့ ကောင်းမွန်သော အုပ်ချုပ်မှုစနစ် (Good Governance) နဲ့ သန့်ရှင်းသောအစိုးရ (Clean Government) ပေါ်ပေါက်လာအောင် ဝိုင်းဝန်းကြိုးပမ်းလုပ်ဆောင်ဖို့ပဲ ဖြစ်ပါတယ်။ အဲဒီလိုဖြစ်ဖို့အတွက်ဆိုရင် ပြည်ထောင်စု အစိုးရနဲ့ တိုင်းဒေသကြီး၊ ပြည်နယ်အစိုးရအဖွဲ့အသီးသီးရဲ့ လုပ်ငန်းစဉ်များဟာ ပွင့်လင်းမှု ရှိရပါမယ်၊ တာဝန်ခံမှုရှိရပါမယ်၊ ဖွဲ့စည်းပုံ အခြေခံဥပဒေ၊ တည်ဆဲဥပဒေများနဲ့ကိုက်ညီမှုရှိရပါမယ်၊ ပြည်သူလူထုဆန္ဒသဘောထားကို အလေးထားရပါမယ်၊ အားလုံးပါဝင်နိုင်မှု ရှိရပါမယ်၊ အစိုးရအဖွဲ့ရဲ့ လုပ်ငန်းများဟာ သွက်လက်ပြီး ထိရောက်မှုရှိဖို့ လိုအပ်ပါတယ်။
- ✦ အုပ်ချုပ်ရေးဆိုင်ရာအဖွဲ့အစည်းများဘက်ကလည်း အုပ်ချုပ်ရေးဆိုင်ရာလုပ်ငန်းများ ဆောင်ရွက်ရာမှာဖြစ်စေ၊ ဥပဒေများ လုပ်ထုံးလုပ်နည်းများကို အကောင်အထည်ဖော်ရာမှာဖြစ်စေ နိုင်ငံသားများရဲ့ မူလအခွင့်အရေးများကို ဟန့်တားပိတ်ပင်သကဲ့သို့ မဖြစ်စေဘဲ၊ အဲဒီအခွင့်အရေးများကို နည်းမှန်လမ်းမှန်နဲ့ ပြည်ထောင်စုရဲ့ အကျိုးစီးပွား၊ လူမှုအဖွဲ့အစည်းရဲ့ အကျိုးစီးပွားများကို မထိခိုက်စေဘဲ ကျင့်သုံးနိုင်အောင် ကူညီထိန်းကျောင်းပေးဖို့အတွက်သာ ရည်ရွယ်လုပ်ဆောင်ဖို့ လိုအပ်ပါတယ်။
- ✦ အလားတူပဲ မိမိတို့လုပ်ငန်းတာဝန်များကို အကောင်အထည်ဖော်ဆောင်ရွက်ရာမှာ ပြည်သူများရဲ့ သဘောထားတွေ၊ တုံ့ပြန်မှုတွေကိုလည်း အလေးထားဖို့လိုအပ်ပါတယ်။ အဲဒီလို ပြည်သူများကရော အုပ်ချုပ်ရေးဆိုင်ရာအဖွဲ့အစည်းများအနေနဲ့ပါ လွတ်လပ်မှုနဲ့ တာဝန်သိမှု၊ လွတ်လပ်မှုနဲ့ စည်းကမ်းရှိမှုများကို မှန်မှန်ကန်ကန် ကျင့်သုံးကြမယ်ဆိုရင် မြန်မာ့လူ့အဖွဲ့အစည်းဟာ ဒီမိုကရေစီကျင့်စဉ်များ ထွန်းကားတဲ့ လူ့အဖွဲ့အစည်းဖြစ်လာမှာ သေချာပါတယ်။
- ✦ နိုင်ငံတော်ကို ခေတ်မီဖွံ့ဖြိုးတိုးတက်တဲ့ ဒီမိုကရေစီနိုင်ငံတော်အဖြစ် တည်ဆောက်နိုင်ဖို့အတွက် တရားဥပဒေစိုးမိုးရေးဟာ မဖြစ်မနေ လိုအပ်ပါတယ်။

တရားဥပဒေစိုးမိုးရေးအတွက် လုပ်ဆောင်ရာမှာ တရားစီရင်ရေး အဖွဲ့အစည်းများမှာ တာဝန်ရှိသလို ဥပဒေစိုးမိုးရေးဆိုင်ရာ အဖွဲ့အစည်းများမှာလည်း တာဝန်ရှိပါတယ်။

- ✦ တရားစီရင်ရေးအဖွဲ့အစည်းများအနေနဲ့ တရားဥပဒေစိုးမိုးရေးအတွက် လုပ်ဆောင်ရာမှာ ဖွဲ့စည်းပုံအခြေခံဥပဒေမှာ ပြဋ္ဌာန်းထားတဲ့ ဥပဒေနဲ့အညီ လွတ်လပ်စွာ တရားစီရင်ရေး၊ ဥပဒေအရ ကန့်သတ်ချက်များမှအပ ပြည်သူ့ရှေ့မှောက်တွင် တရားစီရင်ရေး၊ အမှုများတွင် ဥပဒေအရ ခုခံ ချေပခွင့်နှင့် အယူခံပိုင်ခွင့်ရရှိရေးဆိုတဲ့ တရားစီရင်ရေးမူများအတိုင်း ရပ်တည်လုပ်ဆောင်သွားဖို့လိုပါတယ်။
- ✦ ဥပဒေစိုးမိုးရေးဆိုင်ရာ အဖွဲ့အစည်းများအနေနဲ့ကလည်း ဥပဒေစိုးမိုးရေးကို အကောင်အထည်ဖော်ရာမှာ ကျောသားရင်သားမခွဲခြားဘဲ လုပ်ဆောင်ဖို့၊ မိမိတို့ကိုယ်တိုင်ကလည်း တရားဥပဒေကို စံနမူနာပြ စောင့်ထိန်းဖို့လိုပါတယ်။ တရားရေးမဏ္ဍိုင်ကလည်း ဖြောင့်မတ်မှန်ကန်မယ်၊ ဥပဒေစိုးမိုးရေးဆိုင်ရာ အဖွဲ့အစည်းများကလည်း ဥပဒေနဲ့အညီ ပြုမူကျင့်ကြံလုပ်ကိုင်ကြမယ်ဆိုရင် ကျွန်တော်တို့နိုင်ငံမှာ တရားဥပဒေစိုးမိုးပြီး စည်းကမ်းပြည့်ဝတဲ့ ဒီမိုကရေစီစနစ်ကို ကျင့်သုံးနိုင်မှာဖြစ်ပါတယ်။
- ✦ နောက်ထပ်အလေးထားလုပ်ကိုင်ရမယ့် လုပ်ငန်းစဉ်တစ်ခုကတော့ အစိုးရလုပ်ငန်းများ လျင်မြန်သွက်လက်ရေးနဲ့ ထိရောက်မှု ရှိရေးပဲဖြစ်ပါတယ်။ အစိုးရအဖွဲ့အနေနဲ့ လက်ရှိ (၅)နှစ် စီမံကိန်းပါ ရည်မှန်းချက်များ အောင်မြင်အောင် အကောင်အထည်ဖော်နိုင်ဖို့အတွက် အရှိန်အဟုန်နဲ့ ဆက်လက်ဆောင်ရွက်သွားဖို့လိုပါတယ်။
- ✦ သို့သော် အဲဒီလိုလုပ်ဆောင်ရာမှာ ရည်မှန်းချက်အောင်မြင်ရေးအတွက် လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းများကို လျစ်လျူရှုခြင်း၊ ကုန်ကျစရိတ်နှင့် အလေအလွင့်များကို အလေးမထားခြင်း စတဲ့ အစွန်းတရားများကို ရှောင်ရှားဖို့လိုပါတယ်။ နောက်ပြီး မိမိတို့အစိုးရအဖွဲ့ဟာ ပြည်ထောင်စုလွှတ်တော်မှတစ်ဆင့် ပြည်သူများကို တာဝန်ခံရတဲ့ အဖွဲ့အစည်းဖြစ်တာကြောင့် ပြည်သူ့ဆန္ဒသဘောထားနဲ့ လိုအပ်ချက်များကိုလည်း အလေးထားဖို့ လိုအပ်ပါတယ်။
- ✦ အစိုးရအဖွဲ့ရဲ့လုပ်ငန်းများ လျင်မြန်သွက်လက်ရေးနဲ့ ထိရောက်မှုရှိရေးအတွက် နောက်ထပ် လိုအပ်ချက်ကတော့ ဝန်ကြီးဌာနများအတွင်း ပူးပေါင်းဆောင်ရွက်မှုနဲ့ ပေါင်းစပ်ညှိနှိုင်းမှု ကောင်းမွန်ရေးပဲဖြစ်ပါတယ်။ အခုဆိုရင် ဖွဲ့စည်းပုံအခြေခံဥပဒေအရ ပြည်ထောင်စုအစိုးရသာမက တိုင်းဒေသကြီးနဲ့ ပြည်နယ်အစိုးရများပါ ရှိလာပြီဖြစ်တဲ့အတွက် အစိုးရအဖွဲ့များအတွင်း ပူးပေါင်းဆောင်ရွက်မှုနဲ့ ပေါင်းစပ်ညှိနှိုင်းမှုကောင်းမွန်ရေးဟာ ပိုပြီးအရေးကြီးလာပြီဖြစ်ပါတယ်။



- ✦ ဒါ့ကြောင့် အစိုးရအဖွဲ့အတွင်းမှာ အထက်အောက်နဲ့ ဘေးတိုက်ပူးပေါင်းဆောင်ရွက်ရေး၊ ပေါင်းစပ်ညှိနှိုင်းရေးဟာ အုပ်ချုပ်ရေးလုပ်ငန်းများ လျင်မြန်သွက်လက်ထက်မြက်ရေးအတွက် အလွန်အရေးကြီးပါတယ်။
- ✦ မြန်မာနိုင်ငံရဲ့ ဒီမိုကရေစီစနစ်ဟာ အခုမှ မွေးဖွားခါစပဲ ရှိပါသေးတယ်။ ရင့်ကျက်ဖွံ့ဖြိုးလာအောင် တည်ဆောက်ကြရဦးမှာဖြစ်ပါတယ်။ အဲဒီလို တည်ဆောက်တဲ့နေရာမှာ နိုင်ငံတော်ရဲ့ အုပ်ချုပ်မှုရေးရာများကို တာဝန်ယူဆောင်ရွက်ရတဲ့ အစိုးရအဖွဲ့အစည်း အဆင့်ဆင့်ရဲ့ကဏ္ဍဟာ အင်မတန်မှ အရေးကြီးပါတယ်။ အုပ်ချုပ်မှုရေးရာများဟာ ပြည်သူတွေရဲ့ နေ့စဉ်လူနေမှုဘဝအပေါ် အဓိကလွှမ်းမိုးနေတဲ့ ကိစ္စများလည်းဖြစ်ပါတယ်။ ပြည်သူတွေက စနစ်တစ်ခု ကောင်း မကောင်းဆုံးဖြတ်ရာမှာ သူတို့ရဲ့ နေ့စဉ် လူနေမှုဘဝအပေါ်မှာ ဘယ်လိုအကျိုးသက်ရောက်တယ်ဆိုတာနဲ့ပဲ တိုင်းတာမှာဖြစ်ပါတယ်။
- ✦ အုပ်ချုပ်မှုယန္တရားက ပြည်သူတွေရဲ့ လူနေမှုဘဝ၊ လူမှုစီးပွားဘဝကို အဆင်ပြေချောမွေ့အောင် ဆောင်ရွက်ပေးနိုင်မယ်ဆိုရင်၊ ပြည်သူ့ဝန်ထမ်းများက ပြည်သူတွေကို မျှမျှတတ ဆက်ဆံမယ်ဆိုရင်၊ ပြည်သူတွေဟာ တရားဥပဒေရဲ့ ကာကွယ်စောင့်ရှောက်မှု အောက်မှာ အေးချမ်းစွာ နေထိုင်လုပ်ကိုင်စားသောက်နိုင်မယ်ဆိုရင် ဒီအုပ်ချုပ်ရေးမဏ္ဍိုင်ကို ဖော်ဆောင်ပေးထားတဲ့ အခြေခံဥပဒေကို ယုံကြည်အားကိုးမှာပဲဖြစ်ပါတယ်။ ဥပဒေပြုရေးလုပ်ငန်းတွေကို ဆောင်ရွက်ပေးနေတဲ့ ဥပဒေပြုအဖွဲ့အစည်းတွေ၊ ဥပဒေပြုအဖွဲ့အစည်းများမှာ တာဝန်ယူနေတဲ့ ပုဂ္ဂိုလ်တွေကို ယုံကြည်အားကိုးမှာပဲဖြစ်ပါတယ်။
- ✦ ခေတ်မီဖွံ့ဖြိုးတိုးတက်တဲ့ ဒီမိုကရေစီနိုင်ငံတော် တည်ဆောက်တဲ့နေရာမှာ အခုပထမဆုံး ငါးနှစ်ဟာ အရေးကြီးဆုံးဖြစ်ပါတယ်။ ဒီငါးနှစ်မှာ ကျွန်တော်တို့အနေနဲ့ ခိုင်မာမှန်ကန်တဲ့ ခြေလှမ်းတွေကို လှမ်းနိုင်မယ်ဆိုရင် အနာဂတ်

နိုင်ငံတော်ရဲ့ ရှေ့ခရီးဟာ ဖြောင့်ဖြူးနေပြီလို့ ဆိုနိုင်ပါတယ်။ ဒီလိုဆောင်ရွက် နိုင်ဖို့အတွက် မိမိတို့အစိုးရဟာ အုပ်ချုပ်မှုစနစ်ကောင်းမွန်တဲ့ (Good Governance) အစိုးရကောင်းတစ်ရပ်ဖြစ်ရပါမယ်။ သန့်ရှင်းတဲ့ (Clean Government) အစိုးရဖြစ်ဖို့ လိုပါတယ်။

✦ အစိုးရကောင်းတစ်ရပ်ဖြစ်ဖို့အတွက် စီမံခန့်ခွဲမှုကောင်းဖို့ လိုပါတယ်။ အုပ်ချုပ်မှုကောင်းဖို့ လိုပါတယ်။ ပြည်သူတွေအပေါ် စေတနာထားရပါမယ်။ ပြည်သူရဲ့အကျိုးစီးပွားကို အကာအကွယ်ပေးရပါမယ်။ ပြည်သူကို အလုပ်အကျွေးပြုကြရမှာ ဖြစ်ပါတယ်။

✦ သန့်ရှင်းတဲ့ (Clean Government) ဖြစ်ဖို့အတွက်ကတော့ အဂတိတရား ကင်းရှင်းဖို့ လိုအပ်ပါတယ်။ လာဘ်ပေးလာဘ်ယူခြင်းဟာ တိုင်းပြည်နဲ့လူမျိုးရဲ့ ဂုဏ်သိက္ခာကို ထိခိုက်စေခြင်းကြောင့် မိမိကိုယ်တိုင်သော်လည်းကောင်း၊ မိမိတာဝန်ယူရတဲ့ အဖွဲ့အစည်းအားလည်းကောင်း ကင်းကင်းရှင်းရှင်းရှိအောင် ထိန်းကျောင်းကြပ်မတ်သွားကြဖို့ လိုအပ်ပါတယ်။

✦ ပြည်ထောင်စုအဆင့်ပုဂ္ဂိုလ်များ၊ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အဆင့် ပုဂ္ဂိုလ်များ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ တိုင်း သို့မဟုတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသ ဥက္ကဋ္ဌနှင့် အလုပ်အမှုဆောင်ကော်မတီဝင်များ၊ နေပြည်တော်ကောင်စီဥက္ကဋ္ဌ နှင့် ကောင်စီဝင်များရဲ့ လစဉ်ချီးမြှင့်ငွေကို နိုင်ငံတော်၏ လက်ရှိအခြေအနေ၊ နိုင်ငံတော်၏ ငွေရေးကြေးရေးအခြေအနေနဲ့ နိုင်ငံသားများ၏အကျိုးကို ရှေးရှုသောအားဖြင့် မိမိတို့ခံစားခွင့်ပြုထားသော လစဉ်ချီးမြှင့်ငွေများကို အပြည့်အဝခံစားခြင်းမပြုဘဲ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေး ကောင်စီ ဗဟိုအဖွဲ့အစည်းအသီးသီးတွင် တာဝန်ထမ်းဆောင်ခဲ့သည့် ပုဂ္ဂိုလ် များ၏ ခံစားခဲ့သော လစဉ်ထောက်ပံ့ငွေအတိုင်းသာ ခံစားသွားမှာဖြစ်ပါတယ်။

✦ ထို့အပြင် လွှတ်တော်ကိုယ်စားလှယ်အသီးသီးရဲ့ တင်ပြချက်များအရ နိုင်ငံ့ ဝန်ထမ်းများရဲ့ လစာနှင့်ပင်စင်လစာတို့ကိုလည်း နိုင်ငံတော်ဖွံ့ဖြိုးတိုးတက်မှု ကိုအခြေခံ၍ နိုင်ငံတော်အတွင်း လှည့်လည်သုံးစွဲနေသော ငွေကြေးအခြေ အနေ၊ ငွေကြေးဖောင်းပွမှုနှုန်းနှင့် ကုန်ဈေးနှုန်းအခြေအနေ၊ တစ်မျိုးသားလုံး၏ အသားတင်ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုတန်ဖိုးတို့ကို ထည့်သွင်းစဉ်းစားပြီး သင့်လျော်သောအချိန်ကာလတွင် တိုးမြှင့်ဆောင်ရွက်ပေးသွားမှာ ဖြစ်ပါတယ်။



## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၆-၄-၂၀၁၁)ရက်နေ့တွင် ပြည်ထောင်စုအဆင့် အဖွဲ့အစည်းဝင်ပုဂ္ဂိုလ်များ၊ တိုင်းဒေသကြီးနှင့် ပြည်နယ်ဝန်ကြီးချုပ်များနှင့် ပြည်ထောင်စု ဒုတိယဝန်ကြီးများအား ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

✦ ဈေးကွက်စီးပွားရေးစနစ်တွင် လူတိုင်းအလုပ်လုပ်နိုင်အောင် ဖန်တီးပေးရန် လိုပါကြောင်း၊ လူတိုင်းအလုပ်လုပ်မှ လူတိုင်းဝင်ငွေတိုးပြီး တိုင်းပြည်၏ G.D.P သည်လည်း တိုးလာမှာဖြစ်ပါကြောင်း၊ ဥပဒေနှင့်အညီ လွတ်လပ်စွာ စိုက်ပျိုးခွင့်၊ လွတ်လပ်စွာ သယ်ယူရောင်းချခွင့်ကို ခွင့်ပြုပေးရမှာဖြစ်သည့်အတွက် အတား အဆီး အပိတ်အဆို့ အဟန့်အတားများကို ဖယ်ရှားပေးရမည်ဖြစ်ကြောင်း၊ လူဖြင့်မထိန်းဘဲ မူဖြင့်ထိန်းရမည်ဖြစ်ကြောင်း၊ ဥပဒေနှင့်ထိန်းကျောင်းသွားရ မည်ဖြစ်ကြောင်း၊ သို့မှသာ ကုန်စည်စီးဆင်းမှုသွက်လက်လွယ်ကူပြီး ကုန်ဈေးနှုန်း လည်း ကျဆင်းလာမှာဖြစ်ပါကြောင်း။

✦ စနစ်တစ်ခု၊ ခေတ်တစ်ခုကို ပြောင်းလဲခဲ့ပြီဖြစ်ပါကြောင်း၊ ပြောင်းလဲသည့်ခေတ် စနစ်နှင့်အညီ အတွေးအခေါ်များ၊ လုပ်နည်းလုပ်ဟန်များလည်း လိုက်ပြောင်း ရမည်ဖြစ်ပါကြောင်း၊ ဝန်ကြီးဌာနအလိုက် တိုင်းဒေသကြီးနှင့် ပြည်နယ်အလိုက် လုပ်ငန်းတာဝန်များကို ခွဲဝေပေးထားပြီး ဖြစ်ပါကြောင်း၊ ဗဟို၏ ချုပ်ကိုင်မှုကို လျှော့ပြီး လုပ်ပိုင်ခွင့်အာဏာများကိုလည်း ယုံယုံကြည်ကြည်ဖြင့် အပ်နှင်းခဲ့ပြီး ဖြစ်ပါကြောင်း၊ ထို့ကြောင့် မိမိတို့၏ လုပ်ငန်းများကို တာဝန်ယူကြရမည် ဖြစ်ပါကြောင်း၊ တာဝန်ယူရုံသာမကဘဲ တာဝန်ရှိလာပြီဖြစ်၍ တာဝန်ခံကြရမည် ဖြစ်ပါကြောင်း၊ မိမိတို့ဝန်ကြီးဌာန၊ မိမိတို့ တိုင်းဒေသကြီးနှင့် မိမိတို့ ပြည်နယ် များတွင် ဖြစ်ပေါ်လာမည့် အကောင်းအဆိုး၊ အကျိုးအပြစ်များကို မိမိတို့သာ ခံယူကြရမှာဖြစ်ပါကြောင်း။

✦ စနစ်ပြောင်းသွားပြီဖြစ်သကဲ့သို့ ခေတ်လည်းလိုက်ပြောင်းရမည်ဖြစ်ပါကြောင်း၊ အပြောင်းအလဲကို လိုချင်နေသည့် ပြည်သူများ၏ဆန္ဒကို နားလည်သဘော ပေါက်ကြရမှာဖြစ်ပါကြောင်း၊ ဗဟိုက ချုပ်ကိုင်သည့်စနစ်အစား အောက်ခြေက အဆင့်အဆင့်တာဝန်ယူပြီး အထက်ကို ပြန်တာဝန်ခံသည့်စနစ်မျိုးဖြင့် သွားကြရမှာဖြစ်ပါကြောင်း၊ ထို့ကြောင့် အောက်ခြေက တောင့်တင်းခိုင်မာရန်၊ အားကောင်းရန်လိုပါကြောင်း။

✦ ပြည်သူများကိုလည်း မိမိတို့လူမှုဘဝ ဖွံ့ဖြိုးတိုးတက်ရေးအတွက် အစိုးရကိုချည်း အားကိုးမနေဘဲ ကိုယ်ထူကိုယ်ထ၊ ကိုယ့်အားကိုယ်ကိုး လုပ်ကြကိုင်ကြရေး တိုက်တွန်းကြရန်လိုပါကြောင်း၊ အလုပ်လုပ်ကြရမှာက ပြည်သူများသာဖြစ်ပြီး အလုပ်လုပ်နိုင်အောင် ဖန်တီးပေးရန်နှင့် အခွန်အတုတ်ရအောင် ကောက်ခံရန်မှာ အစိုးရ၏အလုပ်ဖြစ်ပါကြောင်း။

✦ တာဝန်များကို ပြည်ထောင်စုအဆင့် ဝန်ကြီးဌာနများ၊ တိုင်းဒေသကြီးနှင့် ပြည်နယ်ဝန်ကြီးဌာနများကို မိမိအနေဖြင့် ယုံယုံကြည်ကြည် ခွဲဝေအပ်နှင်းပါကြောင်း။

✦ တာဝန်များခွဲဝေပေးအပ်သကဲ့သို့ လုပ်ပိုင်ခွင့်များကိုလည်း ယုံယုံကြည်ကြည်ဖြင့် အပ်နှင်းပါကြောင်း၊ ရဲရဲဝံ့ဝံ့ဖြင့် မိမိတို့လုပ်ရမည့်တာဝန်များ၊ မိမိတို့လုပ်သင့်သည့် အလုပ်များကိုလုပ်ကြရန်နှင့် မည်သူ၏တိုက်တွန်းချက်ကိုမျှ စောင့်မနေဘဲ မိမိတို့အသိနှင့်ယှဉ်ပြီး တက်တက်ကြွကြွဖြင့် လုပ်ကြရန်ဖြစ်ပါကြောင်း။

✦ တာဝန်ရှိလာကြပြီဖြစ်သည့်အတွက် တာဝန်သိရန်လိုပါကြောင်း၊ မိမိတို့လုပ်ဆောင်ချက်၏ အဆိုးအကောင်းကို တာဝန်ယူကြရန်လည်း လိုအပ်ပါကြောင်း၊ စေတနာအလျောက် လုပ်နည်းကိုင်နည်း မှားယွင်းသွားခြင်းကို သည်းခံခွင့်လွှတ်နိုင်သော်လည်း ပုဂ္ဂိုလ်ရေးအရ မှားယွင်းမှုမျိုးမဖြစ်ရန်ကိုမူ ဂရုစိုက်ကြရန် လိုပါကြောင်း။

## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၂၀-၅-၂၀၁၁) ရက်နေ့ ကျေးလက်ဒေသဖွံ့ဖြိုးရေးနှင့် ဆင်းရဲမှုလျှော့ချရေး အမျိုးသားအဆင့် အလုပ်ရုံဆွေးနွေးပွဲ အခမ်းအနားတွင် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

✦ မြန်မာနိုင်ငံလူဦးရေရဲ့ ၇၀ရာခိုင်နှုန်းခန့်ဟာ ကျေးလက်ဒေသမှာ နေထိုင်ကြပြီး လယ်ယာသားငါး ကုန်ထုတ်လုပ်မှုလုပ်ငန်းများမှာ အများဆုံး ဆောင်ရွက်နေကြတဲ့ တိုင်းပြည်ရဲ့ အဓိကကုန်ထုတ်လုပ်မှု စွမ်းအားစုကြီး ဖြစ်တာကို တွေ့မြင်ရမှာဖြစ်ပါတယ်။ ဒါကြောင့် ကျေးလက်ဒေသ ကုန်ထုတ်လုပ်ရေးလုပ်ငန်းများတိုးတက်မှု၊ စီးပွားရေးတိုးတက်မှုတို့ဟာ တိုင်းပြည်ရဲ့ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုမှာ ကြီးမားတဲ့ အခန်းကဏ္ဍက ပါဝင်နေသလို ကျေးလက်ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှသာလျှင် ဆင်းရဲနွမ်းပါးမှုလည်း လျော့ကျလာမှာဖြစ်ပါတယ်။

✦ ကမ္ဘာ့စီးပွားရေးအခြေအနေကို လေ့လာကြည့်ရင် ကမ္ဘာ့ငွေကြေးအကျပ်အတည်း၊ ရာသီဥတု ပြောင်းလဲလာမှုနဲ့ စားနပ်ရိက္ခာဖူလုံ စိတ်ချရရေး ပိုမိုလိုအပ်လာမှု၊ စွမ်းအင်လိုအပ်လာမှုတို့ဟာ ကမ္ဘာ့နိုင်ငံများနဲ့ ပြည်သူများအတွက် စိန်ခေါ်မှုများအဖြစ် ရင်ဆိုင်တွေ့ကြုံလာနေရပြီ ဖြစ်ပါတယ်။ ဒီလိုအခြေအနေမျိုးမှာ စိုက်ပျိုးရေးကို အခြေခံနေရသေးတဲ့ မြန်မာနိုင်ငံအတွက် ကျေးလက်များရဲ့ လယ်ယာသားငါးကဏ္ဍ ဖွံ့ဖြိုးတိုးတက်ဖို့ ပြောင်းလဲလာတဲ့ ရာသီဥတုကို ရင်ဆိုင်ကျော်လွှားပြီး စားနပ်ရိက္ခာဖူလုံမှု၊ ကျေးလက်နေပြည်သူများ၏ ဝင်ငွေတိုးတက်ရရှိရေးနှင့် ဆင်းရဲနွမ်းပါးမှုလျှော့ချရေးကိစ္စတွေဟာ ရှေ့တန်းတင်၍ အလေးထားဆောင်ရွက်ကြရမယ့် လုပ်ငန်းစဉ်ဖြစ်ကြောင်း ပြောကြားလိုပါတယ်။

✦ နိုင်ငံတော်ရဲ့ လယ်ယာသားငါးကဏ္ဍရဲ့ အားသာချက်၊ အားနည်းချက်နဲ့ စိန်ခေါ်မှုများကိုလည်း မျက်ခြည်မပြတ်ကြည့်ရှုပြီး တိုးတက်သည်ထက် တိုးတက်အောင် ကြိုးပမ်းဆောင်ရွက်ကြရမှာ ဖြစ်ပါတယ်။ အားသာချက်များအဖြစ် နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီအစိုးရလက်ထက် ကြိုးပမ်းဆောင်ရွက်ခဲ့မှု အခြေခံကောင်းများဟာ ဒီနေ့ ကျွန်တော်တို့ ဆက်လုပ်ရမယ့် လုပ်ငန်းစဉ်တွေအတွက် အထောက်အကူပြုတဲ့ လှေကားထစ်များသဖွယ်ဖြစ်ပါတယ်။ ဆည်တာတမံ၊ လမ်းတံတား၊ အခြေခံအဆောက်အအုံများကို တည်ဆောက်ပေးခဲ့တဲ့အပြင် နယ်စပ်ဒေသဖွံ့ဖြိုးတိုးတက်ရေး၊ ဒေသကြီး ၂၄ ခု ဖွံ့ဖြိုးတိုးတက်ရေးကို ဖော်ဆောင်ပေးခဲ့ခြင်း၊ ကျေးလက်ဒေသဖွံ့ဖြိုးရေးလုပ်ငန်းစဉ်(၅)ရပ် ချမှတ်ဆောင်ရွက်ပေးခဲ့ခြင်းဟာလည်း ကျေးလက်ဒေသဖွံ့ဖြိုးရေးနဲ့ ဆင်းရဲမှုလျော့ကျစေတဲ့ အခြေခံကောင်းများအဖြစ် မြင်တွေ့ရမှာ ဖြစ်ပါတယ်။

✦ ဒီလိုဆောင်ရွက်ပေးခဲ့တဲ့အတွက် တောင်သူလယ်သမားများအနေနဲ့ ဆန်စပါး သာမက ပဲမျိုးစုံ၊ နှမ်း စတဲ့ ဝင်ငွေရသီးနှံများကို ပိုမိုစိုက်ပျိုးထုတ်လုပ်လာနိုင်ပြီး ဝင်ငွေပိုမိုရရှိလာကာ ကမ္ဘာ့ကုလသမဂ္ဂဖွံ့ဖြိုးမှုအစီအစဉ်နဲ့ သက်ဆိုင်ရာဌာနတို့ ပူးပေါင်းကွင်းဆင်း ဆောင်ရွက်လျက်ရှိတဲ့ ထောင်စုနှစ်ဖွံ့ဖြိုးမှုပန်းတိုင် (Millennium Development Goal - MDG ) ဆိုင်ရာအချက်အလက်များနှင့်

ဆင်းရဲနွမ်းပါးမှုအခြေအနေလျော့လာချက်၊ တင်ပြချက်များအရ ဆင်းရဲနွမ်းပါးမှု ညွှန်းကိန်းများဟာ လျော့ကျလာတာ တွေ့ရှိရပါတယ်။

- ✦ အစိုးရသစ်အနေနဲ့ ကျေးလက်ဒေသ ဖွံ့ဖြိုးတိုးတက်ရေးနဲ့ ဆင်းရဲနွမ်းပါးမှု လျော့ကျရေးတာဝန်ကြီးကို ဘယ်လိုကြိုးပမ်း ဆောင်ရွက်သင့်သလဲ၊ ဘယ်လို လုပ်ငန်းစဉ်တွေ ဖော်ထုတ်ချမှတ် ဆောင်ရွက်သင့်သလဲဆိုတာတွေကို စီးပွားရေးပညာရှင်များ၊ အသင်းအဖွဲ့များ၊ ဌာနဆိုင်ရာများက ဝိုင်းဝန်းဆွေးနွေး ဖော်ထုတ်ကြဖို့ လိုမှာ ဖြစ်ပါတယ်။ ဒီအလုပ်ရုံဆွေးနွေးပွဲဟာ စာတမ်းဖတ်ရုံ၊ ဆွေးနွေးရုံ၊ အကြံပေးရုံသက်သက်မဟုတ်ဘဲ လက်တွေ့ကျကျ ဆောင်ရွက်နိုင်တဲ့ နည်းလမ်းတွေကို ချမှတ်ပြီး မြေပြင်မှာ ဆက်လက်အကောင်အထည်ဖော် ဆောင်ရွက်ဖို့ ဖြစ်ပါတယ်။
- ✦ ရှေးယခင်နှစ်ပေါင်းများစွာ လယ်ယာကဏ္ဍ၊ သားငါးကဏ္ဍတွေဟာ နိုင်ငံတော်အဆင့်က စဉ်ဆက်မပြတ် အားပေးခဲ့ပေမယ့် အောက်ခြေအဆင့် တစ်ဦးတစ်ယောက်ချင်း ရပ်တည်ကြိုးပမ်းဆောင်ရွက်ခဲ့မှုများဟာ လူအင်အားစုစည်းမှု၊ အရင်းအနှီးစုစည်းမှု၊ နည်းပညာစုစည်းမှု၊ ဈေးကွက်ဝင်အောင် စုစည်းမှုဆိုတဲ့ စုစည်းမှုအား တစ်နည်းအားဖြင့် စုပေါင်းစွမ်းအား မထူထောင်နိုင်ခဲ့သေးတဲ့အတွက်ကြောင့် ဖြစ်ပါတယ်။ ဒါကြောင့် အဓိကအခြေခံအချက်ကို စဉ်းစားပြီး ကျေးလက်အဆင့် အစုအဖွဲ့ ကုန်ထုတ်လုပ်မှု စွမ်းအားစုများ ထူထောင်အားပေးမြှင့်တင်မှုဖြင့် ကြိုးပမ်းဆောင်ရွက်သွားကြဖို့ ရည်ရွယ်ပါတယ်။
- ✦ နိုင်ငံတကာမှာတော့ Cooperative အစုအဖွဲ့များကို အခြေခံပြီး ယနေ့အထိ အောင်မြင်စွာ ဆောင်ရွက်လျက်ရှိကြပေမယ့် မြန်မာနိုင်ငံမှာတော့ သမဝါယမ စနစ်ဆိုရင် ယခင်က ရပ်ကွက်လုံးကျွတ်၊ ရွာလုံးကျွတ် မဝင်မနေရ ပါဝင်စေခဲ့ပြီး မမှန်မကန် လုပ်ရပ်ဖြစ်စဉ်များကြောင့် ပြည်သူလူထုက အယုံအကြည်ကင်းမဲ့ခဲ့တဲ့ သင်ခန်းစာကိုယူပြီး အထက်အဖွဲ့အစည်းက ဖွဲ့ပေးခြင်းမျိုး မဟုတ်ဘဲ ယနေ့ ခေတ်သစ်စနစ်သစ်မှာ လူသစ်စိတ်သစ်နဲ့ စိတ်တူကိုယ်တူ ညီညွတ်သူတစ်စုဖြင့်သာ ၎င်းတို့ အချင်းချင်း၊ အလုပ်ကြိုးစားသူချင်း၊ ငွေရေးကြေးရေး စိတ်ချသူချင်း၊ ကုန်ထုတ်လုပ်မှုအစုအဖွဲ့များအဖြစ် ဆန္ဒရှိသူ၊ လုပ်ကိုင်လိုသူများဖြင့် စည်းရုံးဖွဲ့စည်းအားပေးတဲ့အသွင်ကို ဆောင်ရွက်သွားကြရမှာ ဖြစ်ပါတယ်။



- ✦ အမျိုးသားအဆင့် ဆွေးနွေးတိုင်ပင် ညှိနှိုင်းဖော်ထုတ်ကြသူ စီးပွားရေးပညာရှင်များ၊ ဌာနဆိုင်ရာပုဂ္ဂိုလ်များကိုယ်တိုင် ယုံကြည်မှု ခိုင်မာစွာဖြင့် တစိုက်မတ်မတ် ကြိုးပမ်းဆောင်ရွက်ရန် လိုအပ်သလို တိုင်းဒေသကြီးနှင့် ပြည်နယ်အဆင့်၊ မြို့နယ်အဆင့်၊ ကျေးရွာအဆင့်အထိ ယုံကြည်မှုခိုင်မာစွာနဲ့ တစိုက်မတ်မတ် အားထုတ်ကြိုးပမ်းဆောင်ရွက်မှသာ အောင်မြင်မှာဖြစ်ပါတယ်။ ဒါကြောင့် အပြန်အလှန် Confidence Building ယုံကြည်မှုတည်ဆောက်ခြင်းဟာ အရေးပါတဲ့အတွက်ကြောင့် သေသေချာချာ ပေါင်းစပ်ညှိနှိုင်းကြဖို့ မှာကြားချင်ပါတယ်။
- ✦ ငွေကြေးဝန်ဆောင်မှုလုပ်ငန်း (MF) နဲ့ ပတ်သက်ပြီး ဆင်းရဲနွမ်းပါးသူအများစုဟာ ကျေးလက်များမှာနေထိုင်သူများ ဖြစ်ကြပါတယ်။ ၎င်းတို့ဟာ အလုပ်မလုပ်ချင်လို့ မဟုတ်ဘဲ အများစုမှာ အလုပ်လုပ်ကိုင်လိုကြပါတယ်။ အလုပ်လုပ်ကိုင်နိုင်ရန် လုပ်ခင်းကိုင်ခင်းများလည်း ရှိကြပါတယ်။ ၎င်းတို့ရဲ့ အဓိကလိုအပ်ချက်ဟာ ငွေအရင်းအနှီး ဖြစ်ပါတယ်။
- ✦ ၎င်းတို့လိုအပ်နေတဲ့ ငွေကြေးအရင်းအနှီးကို ကျေးလက်အထိ ရောက်ရှိအောင် အသေးစားငွေကြေးဝန်ဆောင်မှု (MF) လုပ်ငန်းများဖြင့် ဆောင်ရွက်ပေးရမှာ ဖြစ်ပါတယ်။ အသေးစားငွေကြေးဝန်ဆောင်မှုလုပ်ငန်းများ စနစ်တကျ ရေရှည်ဆောင်ရွက်သွားနိုင်အောင် ဥပဒေစည်းမျဉ်းနှင့်အညီ တရားဝင်ဖြစ်အောင် ဖွဲ့စည်းဆောင်ရွက်ပေးရပါမယ်။ ယခုအခါ မိမိတို့အစီအစဉ်ဖြင့် ဆောင်ရွက်နေသည့် ပုဂ္ဂလိကလုပ်ငန်းရှင်များ၊ NGO အဖွဲ့အစည်းများအား တူညီသည့်စံနှုန်းများ ညှိနှိုင်းသတ်မှတ်ပေးပြီး တရားဝင်အဖွဲ့အစည်းများဖြစ်အောင် အဖွဲ့အစည်းတစ်ခုက တာဝန်ယူပြီး ကြီးကြပ်ဆောင်ရွက်သွားရမှာဖြစ်ပါတယ်။

## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၂၀-၆-၂၀၁၁) ရက်နေ့ ကျေးလက်ဒေသဖွံ့ဖြိုးရေးနှင့် ဆင်းရဲမှုလျှော့ချရေး ဗဟိုကော်မတီ၏ (၁/၂၀၁၁) အစည်းအဝေးတွင် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

✦ ဆင်းရဲနွမ်းပါးကြတဲ့ ကျေးလက်နေပြည်သူများရဲ့ လူမှုစီးပွားဘဝဖွံ့ဖြိုးတိုးတက်စေရန်အတွက် ယခင်အစိုးရလက်ထက်က ကျေးလက်ဒေသဖွံ့ဖြိုးရေးလုပ်ငန်းတာဝန်(၅)ရပ်ကိုချမှတ်ပြီး အကောင်အထည်ဖော်ဆောင်ရွက်ခဲ့ရာ ပညာရေး၊ ကျန်းမာရေး၊ လမ်းပန်းဆက်သွယ်ရေး၊ သန့်ရှင်းတဲ့သောက်သုံးရေနဲ့ စိုက်ပျိုးရေရရှိရေး စတဲ့ကဏ္ဍတွေမှာ အခြေခံကောင်းတွေ အထိုက်အလျောက် ရှိခဲ့ပြီဖြစ်ပါတယ်။

✦ ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်ရေးနဲ့ ဆင်းရဲနွမ်းပါးမှု လျှော့ချနိုင်ရေးအတွက် မိမိတို့ လုပ်သင့်တဲ့လုပ်ငန်းတွေ၊ မိမိတို့လုပ်ရမယ့် လုပ်ငန်းတွေနဲ့ လုပ်နိုင်တဲ့ လုပ်ငန်းတွေကို ရွေးထုတ်ခဲ့တဲ့အခါ လုပ်ငန်း (၈)ခု ရရှိခဲ့ပါတယ်။ အဲဒီလုပ်ငန်း (၈)ခုကတော့ -

၁။ လယ်ယာကုန်ထုတ်လုပ်မှုဖွံ့ဖြိုးတိုးတက်ရေး။
၂။ မွေးမြူရေးနှင့်သားငါးထုတ်လုပ်မှုဖွံ့ဖြိုးတိုးတက်ရေး။
၃။ ကျေးလက်ဒေသ ကုန်ထုတ်လုပ်ငန်းနှင့် အိမ်တွင်းစက်မှုလက်မှု လုပ်ငန်းများ ဖွံ့ဖြိုးရေး။
၄။ အသေးစားပုဂ္ဂလိကငွေစုငွေချေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေး။
၅။ ကျေးလက်သမဝါယမလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေး။
၆။ ကျေးလက်လူမှုစီးပွား ဖွံ့ဖြိုးတိုးတက်ရေး။
၇။ ကျေးလက်စွမ်းအင် ဖွံ့ဖြိုးတိုးတက်ရေး။
၈။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးတို့ ဖြစ်ပါတယ်။

✦ မကြာမီက ကမ္ဘာ့ကုလသမဂ္ဂ ဖွံ့ဖြိုးမှုအစီအစဉ် (UNDP) နဲ့ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာနတို့ ပူးပေါင်းဆောင်ရွက်ခဲ့တဲ့ အိမ်ထောင်စုများ၏ စားဝတ်နေရေးအခြေအနေ ဘက်စုံလေ့လာမှုစစ်တမ်းအရ မြန်မာနိုင်ငံရဲ့ ဆင်းရဲနွမ်းပါးမှုရာခိုင်နှုန်းဟာ ၃၂ ရာခိုင်နှုန်းမှ ၂၆ ရာခိုင်နှုန်းသို့ ကျဆင်းသွားကြောင်း သိရှိရပါတယ်။ သို့သော်လည်း ကုလသမဂ္ဂထောင်စုနှစ်ပန်းတိုင် MDG ရည်မှန်းချက်(၁) အရ ၁၉၉၀ ပြည့်နှစ်မှ ၂၀၁၅ ခုနှစ်အတွင်း ဆင်းရဲနွမ်းပါးမှုကို ထက်ဝက်လျှော့ချရမှာ ဖြစ်ပါတယ်။ ဒါကြောင့် မြန်မာနိုင်ငံရဲ့ ဆင်းရဲနွမ်းပါးမှုနှုန်းကို ၂၀၁၄ - ၂၀၁၅ ခုနှစ်မှာ ၁၆ ရာခိုင်နှုန်းသို့ လျှော့ချရမှာ ဖြစ်ပါတယ်။



✦ ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်ရေးနှင့် ဆင်းရဲနွမ်းပါးမှုလျှော့ချရေး ဗဟိုကော်မတီအနေနှင့် မူဝါဒပိုင်းဆိုင်ရာတွေကို လမ်းညွှန်ချမှတ် ကြီးကြပ်သွားမှာ ဖြစ်ပါတယ်။ ပြည်ထောင်စုအဆင့် လုပ်ငန်းကော်မတီအနေနဲ့ လုပ်ငန်းတစ်ခုချင်းအလိုက် ပြည်ထောင်စုဝန်ကြီးတစ်ဦးစီက တာဝန်ယူပြီး အောက်ခြေမှာ လက်တွေ့အကောင်အထည်ဖော် ဆောင်ရွက်သွားကြမယ့် တိုင်းဒေသကြီးနှင့် ပြည်နယ်အဆင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးနဲ့ ဆင်းရဲနွမ်းပါးမှုလျှော့ချရေးလုပ်ငန်းကော်မတီများကို အထောက်အကူပေးသွားရန် ဖြစ်ပါတယ်။

✦ ဒီလုပ်ငန်းကို အကောင်အထည်ဖော်တဲ့အခါ အစုအဖွဲ့စုဖွဲ့မှုသည် အဓိကအကျဆုံး ဖြစ်ပါတယ်။ မြို့နယ်များနှင့် ကျေးရွာများတွင် စိတ်တူကိုယ်တူများ စုစည်း၍ အစုအဖွဲ့ဖြင့် အကျိုးတူလုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်၍ နောင်တွင် အစုအဖွဲ့အဆင့်မှ ကျေးရွာသမဝါယမ အသင်းများအသွင်သို့ လူထုယုံကြည်မှုရချိန်တွင် ပြောင်းလဲဖွဲ့စည်းခြင်းကို စီမံဆောင်ရွက်ရမှာ ဖြစ်ပါတယ်။

✦ မြို့နယ်မှာစုဖွဲ့မည့် မြို့နယ်အစုအဖွဲ့သည် နောင်တစ်ချိန်တွင် မြို့နယ်သမဝါယမအသင်းစုများနှင့် ကျေးရွာမှာစုဖွဲ့မည့် ကျေးရွာအစုအဖွဲ့သည် နောင်တစ်ချိန်တွင် ကျေးရွာသမဝါယမအသင်းခွဲများ ဖြစ်လာမှာ ဖြစ်ပါတယ်။ ဒီကိစ္စရပ်တွေကို နောင်နှစ်နှစ်ခန့်ကြာသည့်အခါမှာ ကူးပြောင်းသွားနိုင်ဖို့ သမဝါယမဝန်ကြီးဌာနက ချမှတ်ထားတဲ့ စုဖွဲ့မှုပုံစံနဲ့ စိတ်တူကိုယ်တူ ပူးပေါင်းလုပ်လိုသူများက အများသဘောတူ အစုဝင်ငွေများ ထည့်သွင်းဆောင်ရွက်ရမှာ ဖြစ်ပါတယ်။ စုဖွဲ့ရာတွင် အထက်မှအောက်သို့ အမိန့်ပေးစနစ် (Top Down Policy) ဖြင့် ဖွဲ့စည်းခြင်းမျိုး ရှောင်ကြဉ်၍ လက်အောက်ပါ ပူးပေါင်းပါဝင်ဆောင်ရွက်လာစေသော (Bottom Up Initiative) ပုံစံဖြင့် ဖွဲ့စည်းရမှာ ဖြစ်ပါတယ်။

✦ တောင်သူလယ်သမားများအတွက် အဓိကဝင်ငွေ (Primary Income ) နှင့် ဒုတိယဝင်ငွေ (Secondary Income) ရရှိရန်အတွက် တောင်သူလယ်သမားတစ်ဦးချင်းအနေဖြင့် နည်းပညာနှင့် အရင်းအနှီးမတတ်နိုင်သည့်အတွက်

ဆင်းရဲမှုနှင့် အကြွေးတင်မှုမှ မလွတ်မြောက်နိုင်သည့် အခြေအနေမှ ကျော်လွှားနိုင်ရန် လုပ်ငန်းကော်မတီနှင့် ကော်မတီအဆင့်ဆင့်သည် တစ်ဦးတစ်ယောက်ချင်း လက်လီစိတ်၍ နည်းပညာနှင့် အရင်းအနှီးပေးရန် ခက်ခဲပါတယ်။ ဒါကြောင့် ယခုကဲ့သို့ မြို့နယ်အစုအဖွဲ့ (မြို့နယ်အသင်းစု) နှင့် ကျေးရွာအစုအဖွဲ့များ (ကျေးရွာအသင်းခွဲများ) ဖွဲ့စည်းဆောင်ရွက်ရခြင်း ဖြစ်ပါတယ်။

- ✦ စုဖွဲ့တဲ့အခါမှာလည်း နယ်မြေဒေသနှင့်ဆီလျော်သည့် တောင်သူလယ်သမားများ လက်ရှိတစ်ပိုင်တစ်နိုင် မွေးမြူနေသော ကျွဲ၊ နွား၊ ကြက်၊ ဝက်၊ ဘဲ၊ ဆိတ်၊ ငါးတို့အနက် ၎င်းတို့ဆန္ဒအရ စုဖွဲ့ဆောင်ရွက်မှုကို လိုအပ်သလို ဆောင်ရွက်ရမှာ ဖြစ်ပါတယ်။ တစ်ပိုင်တစ်နိုင် အဆင့်ထက်ပိုမိုပြီး စိုက်ပျိုးရေးနှင့် မွေးမြူရေးကို ပေါင်းစည်းလယ်ယာအဖြစ် လုပ်ကိုင်နိုင်သည့် တောင်သူလယ်သမားကြီးများ ရွေးချယ်၍ ပေါင်းစည်းလယ်ယာ (Integrated Farming) လုပ်နိုင်ရေး တိုးချဲ့ဆောင်ရွက်ရမှာ ဖြစ်ပါတယ်။ အချို့ မြို့နယ်၊ ကျေးရွာတို့တွင် တစ်ရွာလုံး ငါးမွေးခြင်း၊ တစ်ရွာလုံး ဆိတ်မွေးခြင်း၊ တစ်ရွာလုံး ကြက်မွေးခြင်း မျိုးရှိပါက ရွေးချယ်စုစည်း၍ ကျေးရွာမွေးမြူရေးနှင့် သားငါးထုတ်လုပ်ရေး အစုအဖွဲ့ (ကျေးရွာအသင်းခွဲ) ကို သီးခြားဖွဲ့စည်းဆောင်ရွက်ရမှာ ဖြစ်ပါတယ်။ တောင်သူလယ်သမားများအနေနဲ့ အဓိကဝင်ငွေ (Primary Income)အတွက် စိုက်ပျိုးသော ရာသီသီးနှံများဟာ အနည်းဆုံး လေးငါးလကြာမှ ဝင်ငွေရနိုင်သည့်အတွက် ကြားကာလမှာ နေ့စဉ်ဝင်ငွေရစေဖို့ စိုက်ပျိုးရေးနှင့် မွေးမြူရေးကို တစ်ချိန်တည်းမှာ ပူးပေါင်းပြုလုပ်သည့် ပေါင်းစည်း လယ်ယာလုပ်ငန်းကို အကောင်အထည်ဖော်ပေးဖို့ လိုအပ်ပါတယ်။ ထိုသို့ ပေါင်းစည်းလယ်ယာစနစ် ပြုလုပ်ခြင်းအားဖြင့် အိမ်ထောင်စုတစ်ခုအတွက် အလုပ်အကိုင်လည်းရ၊ ဝင်ငွေလည်းရ၊ သဘာဝမြေသြဇာရသည့်အပြင် ဇီဝဓာတ်ငွေ့လောင်စာကိုပါ အသုံးပြုနိုင်မှာ ဖြစ်ပါတယ်။
- ✦ အစုအဖွဲ့များ ဖွဲ့စည်းတဲ့အခါလည်း တာဝန်ပေးသည့်အတွက် ဖွဲ့စည်းရသည့် ပုံစံမျိုးထက် ကျေးလက်ပြည်သူအတွင်းမှ ၎င်းတို့ ကိုယ်တိုင် ယုံယုံကြည်ကြည် လက်ခံကြိုးစားဆောင်ရွက်မည့်သူများဖြင့်သာ ဖွဲ့စည်းဆောင်ရွက်ဖို့ တိုင်းဒေသကြီး/ပြည်နယ် လုပ်ငန်းကော်မတီများက စည်းရုံးဆောင်ရွက်ဖို့ လိုပါတယ်။ အဲဒီလို ဆောင်ရွက်ခြင်းအားဖြင့် ကျေးလက်ဒေသဖွံ့ဖြိုး တိုးတက်မှုရရှိလာပြီး ဆင်းရဲနွမ်းပါးမှု လျော့ကျလာမှာ ဖြစ်ပါတယ်။



## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၁၇-၈-၂၀၁၁)ရက်နေ့တွင် စီးပွားရေး၊ လူမှုရေး နယ်ပယ်အသီးသီး၊ အသင်းအဖွဲ့အသီးသီးမှ တာဝန်ရှိသူများအား ပြောကြားသည့် အမှာစကား ကောက်နုတ်ချက်

- ✦ ဆင်းရဲနွမ်းပါးတဲ့ မြို့ပေါ် ရပ်ကွက်နဲ့ ကျေးလက်နေပြည်သူများရဲ့ လူမှုစီးပွားဘဝကို မြှင့်တင်ပေးလိုတဲ့ ဆန္ဒနဲ့ ကျေးလက်ဒေသဖွံ့ဖြိုးရေးနဲ့ ဆင်းရဲနွမ်းပါးမှုလျှော့ချရေး အလုပ်ရုံဆွေးနွေးပွဲတစ်ခုကို စီးပွားရေးပညာရှင်များ၊ စီးပွားရေးလုပ်ငန်းရှင်ကြီးများ၊ ဝန်ကြီးဌာနအသီးသီးတို့မှ အရာရှိကြီးများ၊ လူထုလူတန်းစားအလွှာအသီးသီးတို့မှ ပုဂ္ဂိုလ်များ အပါအဝင်ဖြင့် နေပြည်တော်မှာ ကျင်းပပြုလုပ်ပေးခဲ့ပါတယ်။ အဲဒီအလုပ်ရုံ ဆွေးနွေးပွဲမှာ ရရှိလာတဲ့ အကြံပေးချက်များအပေါ် လုပ်ငန်းစဉ်(၈)ရပ်ကို ရွေးထုတ်ချမှတ်ပြီး ဗဟိုမှ အောက်ခြေအထိ လုပ်ငန်းကော်မတီအသီးသီးဖွဲ့စည်းကာ လက်တွေ့အကောင်အထည်ဖော် ဆောင်ရွက်ခဲ့တဲ့အတွက် ဒီကနေ့ ကျေးလက်နေ တောင်သူလယ်သမားများ၊ မြို့ပေါ် ရပ်ကွက်အပါအဝင် လက်လုပ်လက်စားများနှင့် ခေါင်းရွက်ဗျပ်ထိုး ဈေးသည်များပါမကျန် ထိုက်သင့်တဲ့ အကျိုးကျေးဇူးများကို လက်တွေ့ခံစားနေကြရပြီ ဖြစ်ပါတယ်။
- ✦ တစ်ချိန်က တိုင်းပြည်တာဝန်ကို ထမ်းဆောင်ခဲ့ကြတဲ့ ပင်စင်စားဝန်ထမ်းများအနေနဲ့ မလောက်မငရခဲ့ကြတဲ့ ပင်စင်လစာကလေးနဲ့ သူတို့ရဲ့ဘဝကို ချို့ချို့တဲ့တဲ့ ရပ်တည်နေခဲ့ကြရတဲ့ အခြေအနေမှ ယခုအခါမှာ ပင်စင်လစာများ တိုးမြှင့်ပေးခဲ့တဲ့အတွက် စားနိုင်၊ နေနိုင်၊ လှူဒါန်းနိုင်တဲ့ သူတို့ရဲ့ဘဝကို ကျေနပ်နှစ်သိမ့်ပြီး ပျော်ရွှင်ချမ်းမြေ့နေကြတာကို အားလုံးမြင်တွေ့နေကြရပြီ ဖြစ်ပါတယ်။ ဒီမြင်ကွင်းကို မြင်ကြရသူတိုင်းဟာလည်းပဲ ဒီပင်စင်စားကြီးများနဲ့ ထပ်တူထပ်မျှ ပျော်ရွှင်ကြည်နူးမိကြတာ အမှန်ပဲဖြစ်ပါတယ်။
- ✦ ယခုအခါမှာ တောင်သူလယ်သမားများအား မျိုးစပါးများ စီမံပေးခြင်း စိုက်စရိတ်ကို ယခင်တစ်ဧက ငွေကျပ် ၂၀၀၀ဝ/-ထုတ်ချေးရာမှ ယခုအခါ ငွေကျပ် ၄၀၀၀ဝ/-အထိ နိုင်ငံတော်မှတိုး၍ ထုတ်ချေးပေးခဲ့တဲ့အပြင် ပုဂ္ဂလိက ငွေစုငွေချေး အသင်းများမှလည်း ပါဝင်ကူညီပြီး ဆောင်ရွက်ပေးပါတယ်။ စပါးပေါ်ချိန်မှာ တောင်သူလယ်သမားများ အရှုံးမပေါ်စေရအောင် အစိုးရနှင့် ဆန်ကုန်သည်ကြီးများ ဖက်စပ်ငွေကြေးစိုက်ထုတ်ကာ အခြေခံဈေးနှုန်း

တစ်ခုဖြင့် သတ်မှတ်ဝယ်ယူပြီး နိုင်ငံတော်ရဲ့ အရန်ဆန်အဖြစ် ထားရှိရန် အစီအစဉ်သစ်တစ်ရပ်ကို ကျွန်တော်တို့ စီမံထားပြီးဖြစ်ပါတယ်။

ပြည်ပပို့ကုန် ပို့နေတဲ့ ကုန်သည်ကြီးများ ပို့ကုန်ကျဆင်း မသွားစေရန်နဲ့ ဒေါ်လာ ဈေးကျဆင်းမှုအပေါ် ထိခိုက်နစ်နာမှု သက်သာစေရန် ယခင်က အခွန် အကောက်အဖြစ် ကုန်သွယ်ခွန် ရှစ်ရာခိုင်နှုန်းကို ငါးရာခိုင်နှုန်းသို့ လျှော့ပေးခဲ့ရာမှ ယခုအခါ အားလုံးလျှော့ပေါ့ပေးပြီး ကုန်သွယ်ခွန်ပေးရန်မလိုဘဲ လွတ်လပ်စွာ ကုန်သွယ်နိုင်အောင် နိုင်ငံတော်မှ စီမံပေးခဲ့ပါတယ်။ အခြားပို့ကုန်များနဲ့ အထည်ချုပ်လုပ်ငန်းများကိုလည်း သက်သာမှုရအောင် စီမံပေးသွားမှာဖြစ်ကြောင်း အသိပေးပြောကြားလိုပါတယ်။

- ဒီ ကေအိုင်အို၊ ကေအိုင်အေ အဖွဲ့တင်မဟုတ်ပါဘူး။ ရှမ်းပြည်နယ်နဲ့ ကရင်ပြည်နယ်မှာရှိတဲ့ အစိုးရကို ဆန့်ကျင်နေတဲ့ မည်သည့်လက်နက်ကိုင်အဖွဲ့မဆို ငြိမ်းချမ်းရေးရယူလိုတဲ့ ဆန္ဒရှိရင် သက်ဆိုင်ရာပြည်နယ် အစိုးအဖွဲ့နဲ့ အချိန်မရွေး ဆွေးနွေးနိုင်ပါတယ်။ ဒီကိစ္စ ကျွန်တော်တို့ လမ်းဖွင့်ပေးထားပါတယ်။ ကျွန်တော်တို့ ပြည်ထောင်စု အစိုးရအဖွဲ့အနေဖြင့် ဒို့တာဝန်အရေးသုံးပါးကို အဓိကထားပြီး ဖွဲ့စည်းပုံအခြေခံဥပဒေနှင့်အညီ ဆောင်ရွက်ပေးသွားမှာဖြစ်ပါတယ်။

- ပြည်တွင်းမှာရှိတဲ့ သဘောထား အမြင်ချင်းမတူကြတဲ့ လူပုဂ္ဂိုလ်အဖွဲ့အစည်းတွေကိုလည်း မတူကွဲပြားတာတွေကို ဘေးဖယ်ထားပြီး တိုင်းပြည်အတွက် အမှန်တကယ် အကျိုးရှိစေမယ့် ဘုံအကျိုးစီးပွားတွေမှာ ပူးပေါင်းဆောင်ရွက်ကြဖို့ ကျွန်တော်တို့ အမြဲဖိတ်ခေါ်ပါတယ်။ အကြောင်းအမျိုးမျိုးကြောင့် ပြည်ပကိုရောက်နေကြတဲ့ မြန်မာနိုင်ငံသား တိုင်းရင်းသားများကိုလည်း ပြစ်မှုတစ်စုံတစ်ရာ ကျူးလွန်သွားတာ မရှိဘူးဆိုရင် အချိန်မရွေး ပြန်လာနိုင်ဖို့ ကျွန်တော်တို့ စဉ်းစားပေးမှာ ဖြစ်ပါတယ်။ ပြစ်မှုကျူးလွန်ခဲ့သည့်တိုင် ထိုက်သင့်တဲ့ ပြစ်ဒဏ်ခံယူဖို့ ပြန်လာမယ်ဆိုရင်တောင် ကျွန်တော်တို့ သဘောထားကြီးစွာနဲ့ စဉ်းစားပေးမှာ ဖြစ်ပါတယ်။

- ရိုးသားတဲ့ စိတ်ရင်းစေတနာ ရှိသူတိုင်းဟာ ကိုယ့်နိုင်ငံကို ချစ်ကြပါတယ်။ ကိုယ့်နိုင်ငံကို ကောင်းစားစေလိုကြပါတယ်။ ညီညီညွတ်ညွတ် ချစ်ချစ်ခင်ခင် စည်းစည်းလုံးလုံးနဲ့ နေလိုကြပါတယ်။ ကိုယ့်မြေ၊ ကိုယ့်ပြည်၊ ကိုယ့်ဆွေမျိုး



အသိုင်းအဝိုင်းကို ခင်တွယ်ကြပါတယ်။ ငြိမ်းချမ်းသာယာဝပြောတဲ့ လူဘောင်အဖွဲ့အစည်းကြီးကို ထူထောင်လိုကြပါတယ်။ ဒါဟာ ကျွန်တော်တို့ရဲ့ တူညီတဲ့ ဆန္ဒဖြစ်ပါတယ်။ ဒီ Common Ground ပေါ်အခြေခံပြီး ငြိမ်းချမ်းသာယာတဲ့ ခေတ်မီဖွံ့ဖြိုးတိုးတက်တဲ့ နိုင်ငံ၊ ကမ္ဘာ့အလယ်မှာ ထည်ထည်ဝါဝါနေနိုင်တဲ့ နိုင်ငံဖြစ်အောင် ဝိုင်းဝန်းတည်ဆောက်ကြဖို့ ကျွန်တော့်အနေနဲ့ တိုက်တွန်းလိုပါတယ်။

- ဒီကနေ့ အချိန်အခါဟာ နိုင်ငံတော်ကို ဒီမိုကရေစီစနစ်နဲ့ အသစ်တစ်ဖန် ပြန်တည်နေရတဲ့ အချိန်ဖြစ်ပါတယ်။ စိန်ခေါ်မှုတွေ ရှိနေသလို အခွင့်အလမ်းကောင်းတွေလည်း ရှိနေပါတယ်။ စိန်ခေါ်မှုတွေကို ကြံ့ကြံ့ခံကျော်လွှားပြီး အခွင့်အလမ်းကောင်းတွေကို အရအမိ ဆုပ်ကိုင်ထားဖို့လိုပါတယ်။

## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၁၉-၈-၂၀၁၁)ရက်နေ့ နိုင်ငံတော်၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် ပြုပြင်ပြောင်းလဲမှုဆိုင်ရာ အမျိုးသားအဆင့် အလုပ်ရုံဆွေးနွေးပွဲ ဖွင့်ပွဲအခမ်းအနားတွင် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

- မိမိတို့နိုင်ငံမှာ လက်ရှိစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် စီးပွားရေးဦးတည်ချက်များချမှတ်ပြီး နည်းဗျူဟာအမျိုးမျိုးနဲ့ စဉ်းစားပုံဖော်လျက်ရှိရာမှ ယခုဆိုရင် ဖွံ့ဖြိုးတိုးတက်မှုလမ်းကြောင်းပေါ် ရောက်ရှိနေပြီဖြစ်ပါတယ်။ တိုးတက်မှု ပိုမိုလျင်မြန်စေရန်နဲ့ ကမ္ဘာ့အခြေအနေများနဲ့ကိုက်ညီအောင် လက်ရှိဘဏ္ဍာရေးနဲ့ ငွေကြေးဆိုင်ရာ မူဝါဒများ၊ ဘဏ်လုပ်ငန်းစနစ်များ ကုန်သွယ်မှုနှင့် စက်မှုလုပ်ငန်းများဖွံ့ဖြိုးစေဖို့ မက်ခရိုစီးပွားရေးမူဝါဒများကို အခြားသော အထောက်အကူပြုအားဖြည့်မူဝါဒများ (Supporting Policies) ဖြစ်တဲ့ အခြေခံအဆောက်အအုံဖွံ့ဖြိုးမှုဆိုင်ရာမူဝါဒများ (Infrastructure Development Policies)၊ အဖွဲ့အစည်းဆိုင်ရာ မူဝါဒများ (Institutional Framework Policies) စတာတွေနဲ့ ပေါင်းစပ်သုံးသပ်နိုင်ပါက ပိုမိုကောင်းမွန်တိုးတက်နိုင်မှာဖြစ်ပါတယ်။ ယင်းအချက်များဟာ မြန်မာ့မက်ခရိုစီးပွားရေးတည်ငြိမ်မှုများအတွက် များစွာရောင်ပြန်ဟပ်နေတာကို တွေ့မြင်နိုင်ပါတယ်။
- ကောင်းမွန်တဲ့ အုပ်ချုပ်မှုစနစ် ဖြစ်ပေါ်စေဖို့ အစိုးရဌာနအသီးသီး၊ အဆင့်အသီးသီးမှာရှိတဲ့ တာဝန်ရှိပုဂ္ဂိုလ်များသာမက စီးပွားရေးအဖွဲ့အစည်းများ၊ အစိုးရမဟုတ်သော အဖွဲ့အစည်းများ၊ လူမှုအဖွဲ့အစည်းများ အမြတ်အတွက်လုပ်ကိုင်သောအဖွဲ့အစည်း၊ အကျိုးအမြတ်အတွက်မဟုတ်သော အဖွဲ့အစည်း၊ ပြည်သူများစတဲ့ လူ့အဖွဲ့အစည်းအတွင်းမှာရှိတဲ့ ပါဝင်သူများ (Stake Holders) အားလုံးနဲ့သက်ဆိုင်ပါတယ်။ ကောင်းမွန်တဲ့ အုပ်ချုပ်မှုစနစ်ဖြစ်ပေါ်စေဖို့ အကျင့်စရိုက်နဲ့ အလေ့အထတွေဟာ ပါဝင်သူများအားလုံးအကြား စိမ့်ဝင်ပျံ့နှံ့နေဖို့ လိုအပ်ပါတယ်။
- ကောင်းမွန်တဲ့ အုပ်ချုပ်မှုစနစ်ရဲ့ အစိတ်အပိုင်းတစ်ရပ်အဖြစ် စီးပွားရေး အဆောက်အအုံဟာ အကျင့်သိက္ခာရှိရှိ (Ethical)၊ တာဝန်ယူမှုရှိရှိ (Accountable) နဲ့ သင့်တော်ပြီး စည်းကမ်းကျနသော ဝန်းကျင်ကောင်းတစ်ရပ်ဖြစ်မှသာလျှင်



ဈေးကွက်အတွင်း သင့်တော်မျှတသော ဝန်းကျင်ကောင်းတစ်ရပ် ဖြစ်ပေါ်စေမှာဖြစ်ပါတယ်။ ပြုပြင်ပြောင်းလဲမှုရှိသော၊ ခေတ်မီစနစ်ကျသော ပုဂ္ဂလိကကဏ္ဍတစ်ရပ် ဖန်တီးရရှိရန် လိုက်လျောညီထွေစွာ လည်ပတ်လျက်ရှိတဲ့၊ သင့်တော်တဲ့ ယှဉ်ပြိုင်မှုရှိသော ဈေးကွက် စီးပွားရေးစနစ်တစ်ရပ် လိုအပ်ပါတယ်။ ဒါမှသာ ပြည်သူများအကြား အလုပ်အကိုင်အခွင့်အလမ်းများ ပေါ်ပေါက်ပြီး ဥစ္စာခနေနဲ့ ဝင်ငွေကို ဖန်တီးရာရောက်ပါမယ်။ သယံဇာတများကိုလည်း သူ့နေရာနဲ့သူ စွမ်းဆောင်ရည်ပြည့်ဝစွာနဲ့ အသုံးပြုနိုင်မှာ ဖြစ်ပါတယ်။

## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၂၂-၈-၂၀၁၁)ရက်နေ့ ပထမအကြိမ် ပြည်ထောင်စုလွှတ်တော် ဒုတိယပုံမှန်အစည်းအဝေး ပထမနေ့တွင် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

- ကျွန်တော်တို့အစိုးရအနေနဲ့ တိုင်းရင်းသားတွေရဲ့ စကား၊ စာပေ၊ အနုပညာ၊ ယဉ်ကျေးမှုတို့ကို ဖွံ့ဖြိုးတိုးတက်စေရန် ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်နဲ့အညီ ဆောင်ရွက်ပေးသွားမှာဖြစ်ပါတယ်။ တိုးတက်ဖွံ့ဖြိုးမှု နည်းပါးနေတဲ့ နယ်စပ်ဒေသတွေမှာ တည်ငြိမ်အေးချမ်းမှု ခိုင်မာလာတာနဲ့အမျှ စီးပွားရေး အခြေအနေကောင်းတွေ အလုပ်အကိုင်အခွင့်အလမ်းတွေ တိုးတက်ဖြစ်ပေါ်လာအောင် ကုန်သွယ်ရေးနယ်မြေတွေ စက်မှုလုပ်ငန်းတွေ ဖန်တီးဖော်ဆောင်နိုင်အောင် ကြိုးပမ်းဆောင်ရွက်သွားမှာဖြစ်ပါတယ်။
- အလားတူ ဖွဲ့စည်းပုံအခြေခံဥပဒေကို လက်မခံနိုင်ကြသေးတဲ့ ပြည်တွင်းနိုင်ငံရေး အင်အားစုများကိုလည်း သဘောထားအမြင်ကွဲလွဲမှုကြောင့် ဖြစ်ပေါ်နေခဲ့တဲ့ ပဋိပက္ခတွေ လျော့ပါးအောင် ကြိုးပမ်းဆောင်ရွက်လျက်ရှိပါတယ်။ ဒီမိုကရေစီကျင့်စဉ်တွေ ထွန်းကားပြန့်ပွားလာအောင် စတင်ကူးပြောင်းဆောင်ရွက်နေတဲ့ ဒီကနေ့ ဒီအချိန်မှာ မိမိတို့နိုင်ငံရဲ့ ယဉ်ကျေးမှု၊ လူ့အဖွဲ့အစည်းနဲ့ လိုက်လျောညီထွေဖြစ်တဲ့ လွတ်လပ်မှုကို ဖော်ဆောင်ရာမှာ တွဲလျက်တည်ရှိနေတဲ့ တာဝန်ယူမှု၊ တာဝန်သိမှုဆိုတဲ့ Democratic Spirit ကိုလည်း ခိုင်မာလာအောင် ကိုယ်စီကိုယ်စီ ထူထောင်တည်ဆောက်သွားကြရမှာ ဖြစ်ပါတယ်။ Democratic Pactices ဖော်ဆောင်တဲ့ လုပ်ငန်းစဉ်တွေမှာလည်း သိသာမြင်သာတဲ့ တိုးတက်မှုတွေ၊ ရလဒ်ကောင်းတွေ စဉ်ဆက်မပြတ်ထွက်ပေါ်စေဖို့ ပြည်ထောင်စုအစိုးရရဲ့ အုပ်ချုပ်ရေးအခွင့်အာဏာကို အကျိုးရှိရှိအသုံးချပြီး ဆောင်ရွက်လျက် ရှိပါတယ်။
- ပြည်သူ့အစိုးရဖြစ်နေပြီဖြစ်တဲ့အတွက် ပြည်သူလူထုအကျိုးစီးပွားကို ဦးထိပ်ထားရပါ့မယ်။ ပြည်သူလူထုစိတ်ကျေနပ်မှု၊ ပြည်သူလူထု စိတ်ချမ်းသာမှုကို ထမ်းဆောင်ကြတဲ့၊ ပြည်သူလူထုတစ်ရပ်လုံးရဲ့ ယုံကြည်ကိုးစားအားထားမှုကို ခံယူထိုက်တဲ့ ပြည်သူ့ဝန်ထမ်းကောင်းများဖြစ်လာအောင် ပညာပေးခြင်း၊ သတိပေးခြင်း၊ အရေးယူခြင်းများ ဆောင်ရွက်နေပြီဖြစ်ပါတယ်။ ခေတ်ပြောင်းနေပြီဖြစ်တဲ့အတွက် စနစ်ကိုပါ ပြောင်းလဲနိုင်ရေး ကြိုးပမ်းဆောင်ရွက်ကြရာမှာ လုပ်နည်း



လုပ်ဟန်တွေ၊ ကြိုးနီစနစ်တွေ၊ ဆက်လက်စွဲကိုင်ထားသူတွေ၊ တာဝန်သိမှု၊ တာဝန်ယူမှုကင်းမဲ့ပြီး အဂတိလိုက်စားမှုများကိုလည်း ထိရောက်စွာ အရေးယူဆောင်ရွက်သွားမှာဖြစ်ပါတယ်။ ပြည်ထောင်စုအစိုးရအဖွဲ့ရဲ့ အုပ်ချုပ်ရေးအာဏာဟာ ပြည်ထောင်စုတစ်ဝန်းလုံးမှာ တည်ရမှာဖြစ်ပါတယ်။

- စီးပွားရေးလုပ်ငန်းများလုပ်ကိုင်ရာမှာလည်း ဖွဲ့စည်းပုံအခြေခံဥပဒေပါပြဋ္ဌာန်းချက်များနဲ့အညီ တရားသဖြင့် ယှဉ်ပြိုင်နိုင်ရေး၊ လူတိုင်းလူတိုင်း တန်းတူရည်တူ အခွင့်အလမ်းများ ရရှိရေးတို့ကို အစွမ်းကုန်မြှင့်တင်ပေးပြီး မလိုအပ်သော အပိုကုန်ကျစရိတ် (Transactional Cost) များ လျော့နည်းကျဆင်းရေး၊ ကြိုးနီစနစ်များ ရှင်းလင်းဖယ်ရှားရေး၊ ဈေးကွက်စီးပွားရေးယန္တရားများ အသက်ဝင်ရှင်သန်ခိုင်မာလာရေး၊ စက်မှုလုပ်ငန်းများနှင့် စီးပွားရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေးကို အခြေခံတဲ့ လုပ်ထုံးလုပ်နည်းများ ပြောင်းလဲကျင့်သုံးရေးတို့ကို အလေးအနက်ထား ဆောင်ရွက်သွားမှာဖြစ်ပါတယ်။
- နိုင်ငံတော်ရဲ့စီးပွားရေးမဏ္ဍိုင်မှာ Key Driver များဖြစ်ကြတဲ့ ပုဂ္ဂလိကကဏ္ဍဦးဆောင်အသင်းအဖွဲ့များနဲ့လည်း စဉ်ဆက်မပြတ် ထိတွေ့ဆွေးနွေးပြီး နိုင်ငံတော်နဲ့ ပြည်သူများရဲ့ အကျိုးစီးပွားကို မြှင့်တင်နိုင်ရန် ဆောင်ရွက်လျက်ရှိပါတယ်။ နိုင်ငံတော်အပိုင်းနဲ့ ပုဂ္ဂလိကအပိုင်း အပြန်အလှန် ပံ့ပိုးကူညီခြင်း၊ ပြည်တွင်းပြည်ပမှ ဖြစ်ပေါ်လာတဲ့ စီးပွားရေးအခက်အခဲများကို စုပေါင်းတိုင်ပင်ဆွေးနွေးညှိနှိုင်းဖြေရှင်းခြင်းများ တိုးမြှင့်ဆောင်ရွက်ပြီး Public-Private Partnership လမ်းကြောင်းကို ခိုင်မာသည်ထက်ခိုင်မာအောင် ပုံဖော်တည်ဆောက်သွားမှာဖြစ်ပါတယ်။ ပုဂ္ဂလိကကဏ္ဍကလည်း မိမိတို့အပိုင်းက စီးပွားရေးအကျိုးအမြတ်များ တိုးမြှင့်ရရှိအောင် ဆောင်ရွက်ကြရာမှာ တိုင်းရင်းသားပြည်သူလူထုတစ်ရပ်လုံးအတွက် ခိုင်မာတဲ့အလုပ်အကိုင်အခွင့်အလမ်းတွေ ဖန်တီးဖော်ဆောင်ပေးနိုင်အောင် နိုင်ငံတော်ရဲ့ အမျိုးသားကုန်ထုတ်စွမ်းရည် တိုးတက်မြင့်မားလာအောင် နောင်အနာဂတ်မှာ ဖြစ်ပေါ်လာမယ့် ဒေသတွင်းနဲ့ ကမ္ဘာလုံးဆိုင်ရာယှဉ်ပြိုင်နိုင်မှုဝန်းကျင်မှာ အရည်အသွေးနဲ့ စံချိန်စံညွှန်းမြင့်မားတဲ့ ကုန်ထုတ်လုပ်မှုတွေ တိုးမြှင့်ထုတ်လုပ်နိုင်အောင် နိုင်ငံတော်နှင့်အတူ လက်တွဲပူးပေါင်းကြိုးပမ်းအားထုတ်သွားကြဖို့ လိုအပ်မှာဖြစ်ပါတယ်။

## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၁၀-၉-၂၀၁၁)ရက်နေ့ ပထမအကြိမ် ပြည်သူ့လွှတ်တော် ဒုတိယပုံမှန်အစည်းအဝေးနှင့် ပထမအကြိမ် အမျိုးသားလွှတ်တော် ဒုတိယပုံမှန်အစည်းအဝေးတို့သို့ ပေးပို့သောသဝဏ်လွှာ

- တိုင်းရင်းသားပြည်သူအပေါင်းတို့၏ တူညီသောမျှော်မှန်းချက်သည် နိုင်ငံတော်တည်ငြိမ်အေးချမ်းရေး နိုင်ငံတော်ခေတ်မီဖွံ့ဖြိုးရေးတို့ ဖြစ်ပါသည်။ ပြည်ထောင်စုအစိုးရသည် တိုင်းရင်းသားပြည်သူတို့၏ ဆန္ဒနှင့်အညီ နိုင်ငံတော်တည်ငြိမ်အေးချမ်းရေးအတွက် ဥပဒေပြင်ပသို့ ရောက်ရှိနေသည့် တိုင်းရင်းသားလက်နက်ကိုင်အဖွဲ့အစည်းများအား ထာဝရငြိမ်းချမ်းရေးရရှိရန် ဆက်သွယ်ကမ်းလှမ်းဖိတ်ခေါ် ဆောင်ရွက်ခဲ့ရာ ယခုအခါ အထူးဒေသ(၂) "ဝ"အဖွဲ့နှင့် အထူးဒေသ(၄) အဖွဲ့တို့သည် ပြည်နယ်အဆင့် သဘောတူညီချက်များရရှိခဲ့ပြီး ပြည်ထောင်စုအဆင့် ဆွေးနွေးပွဲများပင် စတင်ဆောင်ရွက်လျက်ရှိနေပြီဖြစ်ပါသည်။ အချို့အဖွဲ့များသည်လည်း ပြည်နယ်အစိုးရများထံ ငြိမ်းချမ်းရေးရယူရန် ဆက်သွယ်ဆောင်ရွက်မှုများ ရှိနေပါသည်။
- တစ်ချိန်တည်း၌ပင် အကြောင်းအမျိုးမျိုးကြောင့် ပြည်ပသို့ ရောက်ရှိနေကြသည့် မြန်မာနိုင်ငံသား တိုင်းရင်းသားများအားလည်း ကိုယ့်နိုင်ငံ၊ ကိုယ့်ဒေသသို့ ပြန်လာလိုပါက ပြန်လာနိုင်ရန် စိစစ်လက်ခံခဲ့ရာ တချို့ပြန်လာနေကြပြီ ဖြစ်ပါသည်။ အကျဉ်းသားများ လွတ်ပေးရေးကိစ္စများကိုလည်း ဖွဲ့စည်းပုံအခြေခံဥပဒေပါ အပ်နှင်းထားသည့် အခွင့်အာဏာအတွင်းမှ ဆောင်ရွက်ပေးသွားမည်ဖြစ်ပါသည်။ အမျိုးသား အကျိုးစီးပွားအတွက် ထိုသို့အရှိန်အဟုန်ဖြင့် ဆောင်ရွက်နေချိန်တွင် ပါတီအချို့နှင့် အင်အားစုအချို့တို့သည် အစိုးရအခက်အခဲ အကျပ်အတည်းတွေ့အောင်၊ တည်ငြိမ်အေးချမ်းမှု ပျက်ပြားအောင် ကြံရွယ်၍ လှုပ်ရှားလုပ်ဆောင်မှုများ ပြုလုပ်နေကြသည်ကို စိတ်မချမ်းမြေ့ဖွယ် တွေ့ရှိနေရပါသည်။
- တိုင်းပြည်ခေတ်မီဖွံ့ဖြိုးရေးအတွက် စိုက်ပျိုးရေးကို အရှိန်အဟုန်မပျက် တိုးတက်အောင် ဆောင်ရွက်ရင်း စက်မှုနိုင်ငံထူထောင်နိုင်ရန် ရည်ရွယ်၍ ကြိုးပမ်းဆောင်ရွက်လျက်ရှိပါသည်။ ထိုသို့ ကြိုးပမ်းဆောင်ရွက်ရာတွင် စက်မှုနိုင်ငံထူထောင်နိုင်ရန် လျှပ်စစ်စွမ်းအင်လိုအပ်ချက်သည် အဓိကကျပါသည်။



လျှပ်စစ်စွမ်းအင်ရရှိနိုင်သည့် နည်းလမ်းများအနက် အဏုမြူစွမ်းအင်ထုတ်လုပ်သုံးစွဲရေးမှာ ကမ္ဘာ့ဖြစ်စဉ်များအရ အန္တရာယ်ကြီးမားလှသည့်အပြင် ငွေကြေးမပြည့်စုံမှု၊ နိုင်ငံရေးအရ အများသူငါ လက်မခံမှုတို့ကြောင့် မိမိတို့နိုင်ငံအတွက် မဖြစ်နိုင်သောကိစ္စဖြစ်ပါသည်။ ကျောက်မီးသွေးဖြင့် လျှပ်စစ်ဓာတ်အားထုတ်လုပ်ရန် ကျောက်မီးသွေးသယံဇာတမှာလည်း တစ်နိုင်ငံလုံးအတွက် လုံလောက်မှုမရှိသည်ကို ကိုယ်စားလှယ်တော်ကြီးများ အသိပင်ဖြစ်သည်။

- မြန်မာ့ပင်လယ်ပြင်မှ သဘာဝဓာတ်ငွေ့ထွက်ရှိသော်လည်း ပြင်ပအရင်းအနှီးများဖြင့် ထုတ်လုပ်သည့်ကိစ္စဖြစ်၍ မိမိတို့လိုအပ်သလောက်မရနိုင်ဘဲ အချို့အဝက်သာ ခွဲဝေရရှိပါသည်။ ပြည်ပချေးငွေဖြင့် အရင်းအနှီးအချို့ ထည့်ဝင်ထားခဲ့ရာ အနာဂတ်တွင် အကျိုးခံစားရမည်ဖြစ်သော်လည်း လောလောဆယ်တွင်မူ ချေးငွေအပေါ် အတိုးများအရစ်ကျ ပေးဆပ်နေရသည့် အခြေအနေဖြစ်ပါသည်။ ကုန်းတွင်း၌ သဘာဝဓာတ်ငွေ့ ရှာဖွေထုတ်လုပ်နေသော်လည်း ပြည်တွင်းသုံးစွဲရန်အတွက်ပင် လုံလောက်မှု မရှိသေးပါ။
- မြန်မာနိုင်ငံတွင် ပြည့်ဖြိုးမြဲဖြစ်သော ရေအားလျှပ်စစ်ထုတ်ယူနိုင်သည့် သဘာဝကပေးထားသော မြစ်ချောင်းများရှိနေသဖြင့် အဆိုပါမြစ်ချောင်းများမှ ပြည်တွင်းပြည်ပ အရင်းအနှီးများရယူ၍ လျှပ်စစ်ဓာတ်အားထုတ်ယူနိုင်ရေးအတွက် တပ်မတော်အစိုးရလက်ထက်တွင် ကြိုးပမ်းဆောင်ရွက်ခဲ့ရာ ယခင်က ရေအားလျှပ်စစ်ဓာတ်အားပေးစက်ရုံ (၂)ရုံ၊ သဘာဝဓာတ်ငွေ့သုံး ဓာတ်အားပေးစက်ရုံ (၇)ရုံသာရှိခဲ့ပြီး စုစုပေါင်း စက်တပ်ဆင်အား (၅၂၉)မဂ္ဂါဝပ်သာရှိခဲ့ရာမှ နောက်ထပ် လျှပ်စစ်ဓာတ်အားပေးစက်ရုံ (၂၃)ရုံ၊ စက်တပ်ဆင်အား(၂၈၃၁) မဂ္ဂါဝပ် တိုးတက်ဆောင်ရွက်ခဲ့ပါသည်။
- နှစ် (၃၀)လျှပ်စစ်မဟာဗျူဟာစီမံကိန်းအရ နောက်ထပ်ရေအားလျှပ်စစ်စီမံကိန်း (၆၄)ခုနှင့် ကျောက်မီးသွေးဓာတ်အားပေးစက်ရုံ (၃)ခုအပါအဝင် လျှပ်စစ်ဓာတ်အားထုတ်လုပ်ရန် စက်တပ်ဆင်အား မဂ္ဂါဝပ် လေးသောင်းကျော် ထုတ်လုပ်နိုင်သည့် အလားအလာများရှိပါသည်။ အဆိုပါစီမံကိန်းများတွင် ကချင်ပြည်နယ်ရှိ မေခ၊ မလိခမြစ်ညာမြစ်ဝှမ်းနှင့် ဧရာဝတီမြစ်ဆုံစီမံကိန်း(၈)ခု အပါအဝင်ဖြစ်ပါသည်။

✦ တရုတ်ပြည်သူ့သမ္မတနိုင်ငံ၏ ငွေကြေးအရင်းအနှီးဖြင့် ဧရာဝတီမြစ်ဆုံ ရေအားလျှပ်စစ်စီမံကိန်းကို ပထမအဆင့် ဆောင်ရွက်ရန် စတင်ခဲ့ရာ ယခုအခါတွင် အဆိုပါမြစ်ဆုံစီမံကိန်းနှင့်ပတ်သက်၍ ပြည်သူလူထုအတွင်း အောက်ပါ စိုးရိမ်ပူပန်မှုများ ရှိလာခဲ့ပါသည်-

၁။ ကချင်ပြည်နယ်အတွက်သာမက မြန်မာနိုင်ငံအတွက်ပါ သဘာဝက ပေးထားသော (Land Mark)ဖြစ်သည့် မြစ်ဆုံ သဘာဝအလှအပ ပျောက်ကွယ်သွားနိုင်ခြင်း၊

၂။ မြစ်ညာပိုင်းရှိ တိုင်းရင်းသားကျေးရွာများ ရေနစ်မြုပ်၍ ၎င်းတို့၏ အသက်မွေးဝမ်းကျောင်းလုပ်ငန်းများ ဆုံးရှုံးပျက်စီးသွားနိုင်ခြင်း၊

၃။ ပုဂ္ဂလိကများမှ ငွေကြေးအရင်းအနှီးများစွာ စိုက်ထုတ်၍ စီးပွားဖြစ် စိုက်ပျိုးထားသည့် ရော်ဘာစိုက်ခင်းများနှင့် ကွမ်းစိုက်ခင်းများ ပျက်စီးသွားနိုင်ခြင်း၊

၄။ ရာသီဥတုဖောက်ပြန်မှုကြောင့် မြောက်ဖျားရှိ ရေခဲတောင်များ အရည်ပျော်ခြင်း၊ မိုးသည်းထန်စွာရွာသွန်းခြင်း၊ အင်အားပြင်းထန်သည့် ငလျင်လှုပ်ခြင်းတို့ ဖြစ်ပေါ်လာပါက မြစ်ဆုံဆည်ပျက်စီးပြီး ဆည်အောက်ပိုင်းရှိ မြို့ရွာများနှင့် ပြည်သူများ သေကြေပျက်စီးမှုရှိနိုင်ခြင်း၊

၅။ ဧရာဝတီမြစ်ကြီး ထိခိုက်ပျက်စီးနိုင်ခြင်း

စသည်ဖြင့် ပြည်သူအချို့မှ စိုးရိမ်ပူပန်မှု ရှိနေကြသည်ကို မိမိတို့ကြားသိနေရပါသည်။

✦ မိမိတို့အစိုးရသည် ပြည်သူမှ ရွေးချယ်တင်မြှောက်ထားသည့် အစိုးရဖြစ်၍ ပြည်သူများ၏ဆန္ဒကို အလေးထားရပါမည်။ ပြည်သူများ၏ စိုးရိမ်းပူပန်မှုများကို အလေးထား၍ ဖြေရှင်းဆောင်ရွက်ပေးရန် တာဝန်ရှိပါသည်။ သို့ပါ၍ မိမိတို့အစိုးရ လက်ထက်တွင် မြစ်ဆုံဆည်တည်ဆောက်ခြင်းကို မပြုလုပ်စေဘဲ ရပ်ဆိုင်းထားမည် ဖြစ်ပါသည်။ နိုင်ငံတော်အတွက် လိုအပ်နေသည့် လျှပ်စစ်ဓာတ်အားရရှိရေးအတွက် အန္တရာယ်မရှိနိုင်သည့် အခြားသော ရေအားလျှပ်စစ်စီမံကိန်းများကိုသာ စနစ်တကျ လေ့လာဆန်းစစ်၍ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ အိမ်နီးချင်းမိတ်ဆွေနိုင်ငံဖြစ်သည့် တရုတ်ပြည်သူ့သမ္မတနိုင်ငံနှင့် ချုပ်ဆိုထားသည့် အဆိုပါစီမံကိန်းနှင့် သက်ဆိုင်သော စာချုပ်စာတမ်းများကို မိတ်ဝတ်မပျက်စေဘဲ သဘောတူလက်ခံအောင် ညှိနှိုင်းဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ဤလွှတ်တော်သို့ အသိပေးအပ်ပါသည်။



## နိုင်ငံတော်သမ္မတ ဦးသိန်းစိန်(၈-၁၂-၂၀၁၁)ရက်နေ့ (၁၁)ကြိမ်မြောက် အာဆီယံဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နှင့် နည်းပညာဆိုင်ရာ ဝန်ကြီးများအဆင့် အစည်းအဝေးဖွင့်ပွဲအခမ်းအနားတွင် ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

✦ ယနေ့အချိန်အခါတွင် ကမ္ဘာတစ်ဝန်း သတင်းအချက်အလက်နှင့် ဆက်သွယ်ရေးနည်းပညာ အသုံးပြုမှုနှုန်းသည် အရှိန်အဟုန်ဖြင့် တိုးတက်နေပါကြောင်း၊ အာဆီယံဒေသအတွင်း၌လည်း ICT ကဏ္ဍသည် ကမ္ဘာတစ်ဝန်းနည်းတူ အထူးလျင်မြန်သည့်နှုန်းဖြင့် ဖွံ့ဖြိုးတိုးတက်လျက်ရှိပါကြောင်း။ ယင်းကဲ့သို့ တိုးတက်ရန်အတွက် အာဆီယံအဖွဲ့ဝင်နိုင်ငံများမှ ICT ကဏ္ဍဆိုင်ရာ ဝန်ကြီးများကလည်း ASEAN ICT Masterplan ကို ရေးဆွဲအတည်ပြုခဲ့ကြပြီးဖြစ်သည်ဟု သိရှိရပါကြောင်း။

✦ မြန်မာနိုင်ငံသည် လူဦးရေ သန်း ၆၀ ခန့်ရှိပြီး ဧရိယာအနေဖြင့် စတုရန်းကီလိုမီတာ ခြောက်သိန်းခွဲခန့် ကျယ်ပြန့်ပါကြောင်း၊ ယခုအခါတွင် မိမိတို့အစိုးရအနေဖြင့် နိုင်ငံတော်ဖွံ့ဖြိုးတိုးတက်ရေးအတွက် ICT ကဏ္ဍအပါအဝင် လိုအပ်သည့် အခြေခံအဆောက်အအုံများကို တိုးချဲ့ဆောင်ရွက်နေပါကြောင်း၊ ထို့အတူ နိုင်ငံတော်အနေဖြင့် ပိုမိုပွင့်လင်းမြင်သာသည့် ဒီမိုကရေစီစနစ်ကို တည်ဆောက်နေပြီး စီးပွားရေးအရ ဈေးကွက်စီးပွားရေးစနစ်ကို ကျင့်သုံးအကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိပါကြောင်း။

✦ ၂၀၁၀ ပြည့်နှစ် နိုဝင်ဘာ ရွေးကောက်ပွဲများအပြီးတွင် ပြည်သူများ၏ ရွေးချယ်တင်မြှောက်မှုနှင့် ပေါ်ထွက်လာသည့် ယခုမိမိတို့အစိုးရသစ်လက်ထက်၌ ကျေးလက်ဒေသဖွံ့ဖြိုးရေးနှင့် ဆင်းရဲနွမ်းပါးမှုလျှော့ချရေးလုပ်ငန်းများကို အစိုးရနှင့် ပြည်သူများပူးပေါင်း၍ အကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိပါကြောင်း၊ ထို့အပြင် လွှတ်တော်များနှင့် အစိုးရအဖွဲ့တို့သည် နိုင်ငံတော်နှင့် ပြည်သူတို့၏လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်မှုအတွက် အမြဲတမ်းညှိနှိုင်းဆောင်ရွက်လျက်ရှိကြပါကြောင်း။

✦ မိမိတို့မြန်မာနိုင်ငံသည် ၂၀၁၄ ခုနှစ်တွင် အာဆီယံ ဥက္ကဋ္ဌ တာဝန်ယူရန် အတွက် နိုဝင်ဘာလက ပြုလုပ်ခဲ့သည့် ဘာလီ အာဆီယံထိပ်သီးအစည်းအဝေး

တွင် အတည်ပြုခဲ့ပြီးဖြစ်ပါကြောင်း၊ ထို့ကြောင့် လိုအပ်သည့် ပြင်ဆင်မှုတွေကို စနစ်တကျ လုပ်ဆောင်လျက်ရှိနေပါကြောင်း။

- ICT သည် တိုင်းပြည်ဖွံ့ဖြိုးတိုးတက်မှုအတွက် အရေးပါသကဲ့သို့ သန့်ရှင်းမှုရှိပြီး ကောင်းမွန်စွာဆောင်ရွက်သည့်အစိုးရတစ်ရပ် Good Governance and Clean Government ဖြစ်ရန်အတွက်လည်း အထူးအရေးပါနေပါကြောင်း၊ ထိုနည်းတူ စီးပွားရေးလုပ်ငန်းများ လျင်မြန်သွက်လက်စွာ လုပ်ဆောင်နိုင်စေရန်အတွက်နှင့် ကမ္ဘာ့စီးပွားရေးနယ်ပယ်တွင် ထိထိမိမိ ပါဝင်လုပ်ကိုင်နိုင်ရန်အတွက် ဘဏ်စနစ်အပါအဝင် စီးပွားရေးလုပ်ငန်းများကို ICT ဖြင့် မလွဲမသွေ လုပ်ဆောင်သွားရမည်ဖြစ်ပါကြောင်း၊ အာဆီယံသည် စီးပွားရေးအသိုက်အဝန်းတစ်ခု Single Community တစ်ခုဖြစ်လာသည့်အချိန်တွင် တစ်ပြေးညီဖွံ့ဖြိုးတိုးတက်မှုအတွက် ICT နှင့် မည်ကဲ့သို့ အထောက်အကူပြုပေးနိုင်အောင် လုပ်ရမည်ဆိုသည်ကိုလည်း ထည့်သွင်းဆွေးနွေးသွားကြရန် တိုက်တွန်းလိုပါကြောင်း။
- အာဆီယံနိုင်ငံများအတွင်း ICT ကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေးအတွက် ယခုကဲ့သို့ လက်တွဲကြိုးပမ်းဆောင်ရွက်ခဲ့ကြသည်မှာ ၁၀ စုနှစ်တစ်ခု ကျော်လွန်ခဲ့ပြီးဖြစ်ပါကြောင်း၊ ယခုအခါတွင် အာဆီယံ ၁၀ နိုင်ငံအပြင် ဆွေးနွေးဖက်နိုင်ငံများအဖြစ် တရုတ်၊ ဂျပန်၊ ကိုရီးယား၊ အိန္ဒိယ၊ အီးယူတို့ပါ ပါဝင်ပြီး မိမိတို့ဒေသအကျိုးစီးပွားအတွက် ICT ကဏ္ဍ မြှင့်တင်ရေးကို ပူးပေါင်းအကောင်အထည်ဖော်နေကြသည်ကို တွေ့ရှိရသည့်အတွက် အထူးကျေနပ်ဝမ်းမြောက်မိပါကြောင်း၊ "အတူတကွ ဖွံ့ဖြိုးတိုးတက်ရေးနှင့် ငြိမ်းချမ်းစွာ အတူယှဉ်တွဲနေထိုင်ရေး"ဆိုသည့် အာဆီယံ၏ ဆောင်ပုဒ်အတိုင်း ရေရှည်ပူးပေါင်းဆောင်ရွက်၍ အကျိုးရှိမည့် နည်းလမ်းကောင်းများကို ရှာဖွေဖော်ထုတ်သွားကြရန်လည်း တိုက်တွန်းလိုပါကြောင်း။



## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၂၀-၁၂-၂၀၁၁) ရက်နေ့ စတုတ္ထအကြိမ် မဟာမဲခေါင်ဒေသခွဲနိုင်ငံများ ထိပ်သီးအစည်းအဝေးဖွင့်ပွဲအခမ်းအနားတွင် ပြောကြားသည့်မိန့်ခွန်းကောက်နုတ်ချက်

- ၁၉၉၂ ခုနှစ်မှ စတင်၍ မဟာမဲခေါင်ဒေသခွဲနိုင်ငံများဟာ စီးပွားရေးပူးပေါင်းဆောင်ရွက်မှုအစီအစဉ်ကို အကောင်အထည်ဖော် ဆောင်ရွက်ခဲ့ကြပါတယ်။ ယခုနှစ်၌ ဂျီအမ်အက်စ်အစီအစဉ်သည် တတိယအကြိမ် ဂျီအမ်အက်စ် ထိပ်သီးအစည်းအဝေးပွဲ၌ မဟာမဲခေါင်ဒေသခွဲနိုင်ငံများ ဖွံ့ဖြိုးတိုးတက်ရန်အတွက် ချမှတ်ခဲ့သည့် ဗီယင်ကျန်းလုပ်ငန်းအစီအစဉ် (၂၀၀၈-၂၀၁၂) အကောင်အထည်ဖော်မှုလမ်းခရီးတစ်ဝက်ကို ကျော်လွန်နေပြီဖြစ်ပါတယ်။
- စတုတ္ထအကြိမ် ဂျီအမ်အက်စ် ထိပ်သီးအစည်းအဝေးမှာ မိမိတို့အနေနဲ့ ရရှိလာသော တိုးတက်အောင်မြင်မှုများနှင့် မည်သည့်ကိစ္စတွေကို ဆက်လက်လုပ်ဆောင်သွားရမယ်ဆိုတာကို ဆွေးနွေးသွားမှာဖြစ်ပါတယ်။ ပို၍ အရေးကြီးသောအချက်မှာ လာမည့်ဆယ်စုနှစ်အတွင်း ဂျီအမ်အက်စ်ပူးပေါင်းဆောင်ရွက်ရေးကို လမ်းညွှန်ရန် ရည်ရွယ်သည့် မဟာဗျူဟာ ပူးပေါင်းဆောင်ရွက်မှု မူဘောင်တစ်ရပ်ကို ထောက်ခံအတည်ပြုနိုင်ရန်အတွက် ယခုကဲ့သို့ ထိပ်သီးအစည်းအဝေး၌ တွေ့ဆုံဆွေးနွေးနေခြင်းဖြစ်ပါတယ်။
- ဂျီအမ်အက်စ်အစီအစဉ်ဟာ အောင်မြင်ရင့်ကျက်လာသည်နှင့်အတူ အဖွဲ့အတွင်း ပူးပေါင်းဆောင်ရွက်မှုသည်လည်း ဒုတိယမျိုးဆက်ခြေလှမ်းသို့ ဦးတည်အလေးထားဆောင်ရွက်ရန် လိုအပ်လာပြီဖြစ်ပါတယ်။ ပေါ်ထွက်လာသည့်ကိစ္စရပ်များနှင့် အကြောင်းအရာများဟာ မိမိတို့အဖွဲ့ရဲ့ ဆက်လက်ကြီးထွားမှုနှင့် ဖွံ့ဖြိုးတိုးတက်လာမှုကို ပိုမိုလေးနက်သည့် အန္တရာယ်များဖြစ်စေနိုင်မည့် အလားအလာများ ဖြစ်ပေါ်စေပါတယ်။ အဆိုပါကိစ္စရပ်များမှာ ရာသီဥတုပြောင်းလဲခြင်း၊ စွမ်းအင်ဖူလုံရေးနှင့် စားနပ်ရိက္ခာလုံခြုံမှု၊ သဘာဝအရင်းအမြစ်များ ဆက်လက်ရှင်သန်နိုင်မှု၊ ထောက်ပံ့ပို့ဆောင်ရေးနှင့် လူသားအရင်းအမြစ်ဖွံ့ဖြိုးတိုးတက်ရေးတို့ ပါဝင်ပါတယ်။
- ပေါ်ပေါက်လာတဲ့ စိန်ခေါ်မှုများနှင့် အသစ်အသစ်သော စိန်ခေါ်မှုများအရ မိမိတို့ဒေသဖွံ့ဖြိုးတိုးတက်မှုလမ်းကြောင်းပေါ်ရောက်ရန်အတွက် ဂျီအမ်အက်စ်

အစီအစဉ်သည် ကောင်းမွန်သောလမ်းညွှန်မှုပေးရန် လိုအပ်လျက်ရှိပါတယ်။ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ၌ ကျင်းပခဲ့တဲ့ (၁၇) ကြိမ်မြောက် ဂျီအမ်အက်စ် ဝန်ကြီးအဆင့် အစည်းအဝေးမှာ သုံးသပ်ခဲ့သော ၂၀၁၂-၂၀၂၂ ခုနှစ်(ဆယ်နှစ်တာကာလ)အတွက် ဂျီအမ်အက်စ်နည်းဗျူဟာ မူဘောင်အသစ်သည် ထိုသို့သော လမ်းညွှန်မှုကို ထောက်ပံ့ပေးရန် ရည်ရွယ်ပါတယ်။

- မဟာဗျူဟာမူဘောင်အသစ်သည် မိမိတို့ဒေသအုပ်စုရဲ့ အနာဂတ်အစီအစဉ်များအတွက် ပထမခြေလှမ်းဖြစ်သကဲ့သို့ ကျယ်ပြန့်တဲ့လမ်းညွှန်မှုတစ်ခုလည်းဖြစ်ပါတယ်။ တတိယအကြိမ်မြောက် ဂျီအမ်အက်စ် ထိပ်သီးအစည်းအဝေးနောက်ပိုင်း ဂျီအမ်အက်စ်နိုင်ငံများရဲ့ ဆောင်ရွက်ချက်များကို ပြန်လည်သုံးသပ်ကြည့်မယ်ဆိုရင် ဂျီအမ်အက်စ်ဒေသများ ဖွံ့ဖြိုးတိုးတက်ရန်အတွက် **“ဗီယင်ကျန်း ရှေ့လုပ်ငန်းစဉ်များ”**ကို အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန် ဆက်လက်ကြိုးစားလုပ်ဆောင်သွားရမှာဖြစ်ပါတယ်။ ဤဂျီအမ်အက်စ်၏ ရှေ့လုပ်ငန်းစဉ်များသည် အလယ်အလတ်သက်တမ်းကာလရှိသော ဂျီအမ်အက်စ်ပူးပေါင်းဆောင်ရွက်ခြင်းဆိုင်ရာ ဦးစားပေးကဏ္ဍ (၉)ခုအတွက် ရှင်းလင်းပြတ်သားသော လမ်းစဉ်တစ်ခုဖြစ်ပါတယ်။ စိန်ခေါ်မှုအသစ်များကို ဂျီအမ်အက်စ်အဖွဲ့ဝင်နိုင်ငံများ ရင်ဆိုင်ဖြေရှင်းနိုင်ရန်အတွက် မဟာဗျူဟာမူဘောင်ကို အကျိုးရှိရှိ အကောင်အထည်ဖော်ဆောင်ရွက်သွားရမှာဖြစ်ပါတယ်။
- ဂျီအမ်အက်စ်စီးပွားရေးပူးပေါင်းဆောင်ရွက်မှုနှင့် ဒေသတွင်း ကြိုးပမ်းချက်များကို မြှင့်တင်နိုင်ရန်အတွက် စတုတ္ထအကြိမ်မြောက် ဂျီအမ်အက်စ်ထိပ်သီးအစည်းအဝေး၏ အဓိကခေါင်းစဉ်အဖြစ် “၂၀၁၂ ခုနှစ်အလွန် မဲခေါင်ဒေသခွဲ ဖွံ့ဖြိုးတိုးတက်မှု မဟာဗျူဟာ ပူးပေါင်းဆောင်ရွက်ရေး ၁၀ စုနှစ်သစ်ဆီသို့” ဟူ၍ဖြစ်ပါတယ်။
- ဖွံ့ဖြိုးတိုးတက်ရေးမိတ်ဖက်များ၊ အနာဂတ်ပူးပေါင်းဆောင်ရွက်ရေးကိစ္စများကို ချမှတ်ရန်နှင့် သုံးသပ်ဆွေးနွေးရန်အတွက် ဤထိပ်သီးအစည်းအဝေးကို ရည်ရွယ်ကျင်းပခြင်းလည်းဖြစ်ပါတယ်။ သို့ဖြစ်ပါ၍ ခိုင်မာရင့်သန်သော မိမိတို့၏ ဒေသတွင်း ပူးပေါင်းဆောင်ရွက်မှုဆိုင်ရာ အစီအစဉ်များအတိုင်း မိမိတို့အဖွဲ့အစည်းသည် ဖွံ့ဖြိုးမှုပိုင်းတွင် အကူအညီပေးနေသော မိတ်ဖက်နိုင်ငံများနှင့်အတူ အခွင့်အရေးအသစ်များ ဆက်လက်ရယူအသုံးချသွားမည်ဆိုပါက ကဏ္ဍစုံပူးပေါင်းဆောင်ရွက်မှု လုပ်ဆောင်ချက်များမှာ အကျိုးအမြတ်များ ရရှိခံစားနိုင်မှာဖြစ်ပါတယ်။



- ၃၀-၃-၂၀၁၁ ရက်နေ့မှစ၍ မြန်မာနိုင်ငံရေးတွင် ရွေးကောက်ပွဲဖြင့် တင်မြှောက်ခြင်းခံရသော အစိုးရသစ်ပေါ်ပေါက်လာပါတယ်။ အစိုးရသစ်သည် မြန်မာနိုင်ငံအား ငြိမ်းချမ်း၍ ခေတ်မီကာ ဖွံ့ဖြိုးတိုးတက်သည့် ဒီမိုကရေစီနိုင်ငံတစ်နိုင်ငံဖြစ်ရန် ကြိုးပမ်းတည်ဆောက်နေပါတယ်။ အစိုးရသည် ကဏ္ဍအသီးသီး၌ ဒီမိုကရေစီကျင့်စဉ်များ ပေါ်ထွန်းရေး၊ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုနှင့် ပြည်သူများ၏ စားဝတ်နေရေး ပိုမိုတိုးတက်ကောင်းမွန်လာစေရေးတို့အတွက် ပြုပြင်ပြောင်းလဲရေးလုပ်ငန်းများကို လုပ်ဆောင်နေပါတယ်။ အစိုးရ၏ ဆောင်ရွက်ချက်များမှာ ခိုင်မာပြီး ရှင်းလင်းထင်ရှားစွာ မြင်တွေ့နိုင်ပါတယ်။
- နိုင်ငံတကာအသိုင်းအဝန်းအတွင်း မြန်မာနိုင်ငံမှ ထိုက်တန်သောနေရာကို ပြန်လည်ရရှိရန်နှင့် နိုင်ငံဖွံ့ဖြိုးတိုးတက်စေရန်အတွက် နိုင်ငံတကာ အသိုက်အဝန်းနှင့် လက်တွဲဆောင်ရွက်သွားမှာဖြစ်ပါတယ်။ ဤလုပ်ဆောင်ချက်များဟာ ဒေသတွင်း ငြိမ်းချမ်းရေးနှင့် ကြီးပွားတိုးတက်ရေးအတွက်ပါ အထောက်အကူဖြစ်စေမည်ဖြစ်ပါတယ်။
- ဂျီအမ်အက်စ်သယ်ယူပို့ဆောင်ရေးစင်္ကြံများအား စီးပွားရေးစင်္ကြံများအဖြစ် ဖွံ့ဖြိုးဖြစ်ပေါ်လာရန် အရှိန်အဟုန်ဖြင့် ကြိုးပမ်းချက်များကိုလည်း မှတ်သားရပါတယ်။ ဤကြိုးပမ်းဆောင်ရွက်ချက်များသည် ဂျီအမ်အက်စ်နိုင်ငံများ ပိုမိုယှဉ်ပြိုင်နိုင်စွမ်းရှိရန် အခြေခံကြီးများအဖြစ် ဆောင်ရွက်ရန် ဂျီအမ်အက်စ်စင်္ကြံများ၏ အခန်းကဏ္ဍကို ပိုမိုခိုင်မာလာစေရန်လည်း ရည်ရွယ်ပါတယ်။ စီးပွားရေးစင်္ကြံသုံးခုဖြစ်သော အရှေ့-အနောက်၊ မြောက်-တောင်၊ တောင်ဘက်ပိုင်း စီးပွားရေးစင်္ကြံများပါသည့် ဂျီအမ်အက်စ်ဒေသတွင်း ဆက်သွယ်နိုင်မှု ပိုမိုတိုးမြှင့်စေရန်အတွက် ပိုမိုဖွံ့ဖြိုးတိုးတက်လာရန် လိုအပ်နေပါတယ်။ ဒေသခွဲအတွင်း ဆက်သွယ်မှု ပိုမိုကောင်းမွန်စေရန်အတွက် ဂျီအမ်အက်စ်နိုင်ငံများမှ ဒေသနှင့် မြို့နယ်အာဏာပိုင်များနှင့် ပုဂ္ဂလိကကဏ္ဍအပါအဝင် ပါဝင်ပတ်သက်သူပုဂ္ဂိုလ်၊ အဖွဲ့အစည်းများအားလုံး၏ ပါဝင်ဆောင်ရွက်မှုဖြင့် စီးပွားရေးစင်္ကြံများကို ပိုမိုဖွံ့ဖြိုးတိုးတက်စေရန် လုပ်ဆောင်ရန် လိုအပ်ပါတယ်။

## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် (၂၆-၁-၂၀၁၂)ရက်နေ့ ပထမအကြိမ် ပြည်သူ့လွှတ်တော် တတိယပုံမှန်အစည်းအဝေးနှင့် ပထမအကြိမ် အမျိုးသားလွှတ်တော် တတိယပုံမှန်အစည်းအဝေးတို့သို့ ပေးပို့သောသဝဏ်လွှာ

- လွှတ်တော်ဥက္ကဋ္ဌနှင့် ကိုယ်စားလှယ်များက နိုင်ငံနှင့်ပြည်သူအကျိုးငှာ ဥပဒေရေးရာ၊ မူဝါဒရေးရာများကို အားသွန်ခွန်စိုက် ညှိနှိုင်းဆွေးနွေး ဆုံးဖြတ်ဆောင်ရွက်လျက်ရှိသကဲ့သို့ မိမိတို့ပြည်ထောင်စုအစိုးရ၊ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရအဖွဲ့များကလည်း ၃၀-၃-၂၀၁၁ရက်က ပြည်ထောင်စု လွှတ်တော်တွင် ပြောကြားခဲ့သည့် ပြည်ထောင်စုအစိုးရသစ်၏ မူဝါဒသဘောထား လမ်းစဉ်များနှင့်အညီ အားကြိုးမာန်တက် အကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိကြပါသည်။

- နိုင်ငံနှင့်ပြည်သူသို့ ကတိကဝတ်ပြုခဲ့ပြီး ဖြစ်သည့်အတိုင်း နိုင်ငံတည်ငြိမ်အေးချမ်းရေးနှင့် တရားဥပဒေစိုးမိုးရေး၊ အမျိုးသားပြန်လည်စည်းလုံးညီညွတ်ရေး၊ ဒီမိုကရေစီကျင့်စဉ်များ ထွန်းကားရေး၊ ကောင်းမွန်သောအုပ်ချုပ်ရေးနှင့် သန့်ရှင်းသောအစိုးရဖြစ်ပေါ်ရေး၊ ဖွဲ့စည်းပုံအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ နိုင်ငံသားများ၏ မူလအခွင့်အရေးများရရှိရေး၊ ပညာရေးနှင့် ကျန်းမာရေး အဆင့်အတန်း မြှင့်တင်ရေး၊ စီးပွားရေးပြုပြင်ပြောင်းလဲရေး၊ နိုင်ငံနှင့်ပြည်သူ၏ အနာဂတ်လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်မြင့်မားရေးနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများကို ကိုယ်စွမ်းဉာဏ်စွမ်းရှိသမျှ ပြုပြင်ပြောင်းလဲကြိုးပမ်းဖော်ဆောင်လျက်ရှိပါသည်။

- အထူးသဖြင့် ပြည်သူတိုင်း၏ လိုလားတောင့်တချက်ဖြစ်သည့် နိုင်ငံတော်တည်ငြိမ်အေးချမ်းရေး၊ နိုင်ငံတော်ခေတ်မီဖွံ့ဖြိုးတိုးတက်ရေးနှင့် ပြည်သူတို့၏ လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်ရေး၊ ဒီမိုကရေစီဖော်ဆောင်ရေး သို့မဟုတ် ဥပဒေနှင့်အညီ လွတ်လပ်စွာနေထိုင်လုပ်ကိုင် စားသောက်နိုင်ရေးတို့ကို အလေးထားပြီး တစိုက်မတ်မတ် ကြိုးပမ်းဖော်ဆောင်ပေးလျက်ရှိပါသည်။

- နိုင်ငံတော် တည်ငြိမ်အေးချမ်းရေးနှင့် စပ်လျဉ်း၍ ပြည်ထောင်စုအတွင်း ထာဝရငြိမ်းချမ်းရေး ရရှိစေနိုင်ရန်အတွက် နိုင်ငံ၏ ပကတိအရှိတရားနှင့် အတိတ်သမိုင်းအတွေ့အကြုံများအပေါ် အခြေခံလျက် ယခင်ကနှင့် မတူသည့် မူများကို ကျင့်သုံးကာ ကြိုးပမ်းဆောင်ရွက်လျက်ရှိပါသည်။ ယနေ့အထိ ငြိမ်းချမ်းရေး



ရယူနိုင်ခြင်း မရှိသေးသည့် တိုင်းရင်းသားလက်နက်ကိုင်အဖွဲ့ (၁၁)ဖွဲ့လုံးနှင့် ထိတွေ့ဆွေးနွေးညှိနှိုင်းပြီး အဖွဲ့ (၆)ဖွဲ့နှင့် အခြေခံသဘောတူညီချက်များကို လက်မှတ်ရေးထိုးဆောင်ရွက်နိုင်ခဲ့ပြီး ဖြစ်ပါသည်။ ကျန်အဖွဲ့ (၅)ဖွဲ့နှင့်လည်း ထိတွေ့ညှိနှိုင်းဆွေးနွေးလျက်ရှိရာ ခြုံငုံသုံးသပ်ရပါက ငြိမ်းချမ်းရေးဖော်ဆောင်မှုလုပ်ငန်းစဉ်များ တိုးတက်အောင်မြင်ပြီး အခြေအနေကောင်းမွန်သည်ကို တွေ့မြင်နိုင်ပါသည်။ ဆက်လက်၍လည်း ထာဝရငြိမ်းချမ်းရေးရရှိအောင် ကြိုးပမ်းအကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

- ထို့ပြင် နိုင်ငံတော်တည်ငြိမ်ရေးအတွက် အမျိုးသားစည်းလုံးညီညွတ်ရေးဖော်ဆောင်နိုင်ရန် အမြင်သဘောထားမတူသည်များကိုထားပြီး အမြင်သဘောထားတူညီသည်များကို ပြည်သူများအကျိုးအတွက် ပူးပေါင်းဆောင်ရွက်ရေးမူဖြင့် ကြိုးပမ်းဆောင်ရွက်ခဲ့ပါသည်။ အမျိုးသားနိုင်ငံရေးလုပ်ငန်းစဉ်များတွင် အားလုံးပါဝင်နိုင်အောင် ဆောင်ရွက်သင့်သည်များကိုလည်း ဆောင်ရွက်ပေးခဲ့ပါသည်။ အကြောင်းအမျိုးမျိုးဖြင့် ပြည်ပရောက်နေကြသော နိုင်ငံသားများကိုလည်း နိုင်ငံတော်တည်ဆောက်ရေးလုပ်ငန်းစဉ်များတွင် ပါဝင်နိုင်အောင် လက်ကမ်းဖိတ်ခေါ်ခဲ့ပါသည်။ ထိုသို့ဆောင်ရွက်မှုကြောင့် အမျိုးသား ပြန်လည်စည်းလုံးညီညွတ်ရေး တိုးတက်ကောင်းမွန်လာပြီး ပြည်တွင်းနိုင်ငံရေး တည်ငြိမ်မှုရှိလာသည်ကိုလည်း တွေ့မြင်နိုင်ပါသည်။

- နိုင်ငံခေတ်မီဖွံ့ဖြိုးတိုးတက်စေရန်နှင့် ပြည်သူတို့၏ လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်စေရန် ရည်စူး၍ လူမှုရေး၊ စီးပွားရေး၊ ပညာရေး၊ ကျန်းမာရေး၊ စိုက်ပျိုးရေးဆိုင်ရာ ပြုပြင်ပြောင်းလဲ မြှင့်တင်မှုများကိုလည်း တစိုက်မတ်မတ် ဆောင်ရွက်လျက်ရှိပါသည်။ နိုင်ငံ၏ စီးပွားရေး အဆောက်အအုံတစ်ခုလုံး ပြောင်းလဲတိုးတက်လာစေရန်အတွက် ငွေကြေးမူဝါဒ၊ ဘဏ္ဍာရေးမူဝါဒ၊ ကုန်သွယ်ရေးမူဝါဒနှင့် ရင်းနှီးမြှုပ်နှံမှု မူဝါဒများကို ပြန်လည်သုံးသပ်ပြီး ပြုပြင်သင့်သည်များကို အရှိန်အဟုန်ဖြင့် ပြုပြင်ဆောင်ရွက်ပေးလျက်ရှိပါသည်။ အထူးသဖြင့် ရင်းနှီးမြှုပ်နှံမှုနယ်ပယ်၌ ပြည်ပရင်းနှီးမြှုပ်နှံမှုများ ပိုမိုဝင်ရောက်လာနိုင်ရန် ရေခံမြေခံ ပတ်ဝန်းကျင်ကောင်းများ ဖြစ်ထွန်းလာရေး ပြုပြင်ဖော်ဆောင်ပေးလျက်ရှိပါသည်။ ကူးသန်းရောင်းဝယ်မှုလုပ်ငန်းများ၊ ပို့ကုန်သွင်းကုန်လုပ်ငန်းများ သွက်လက်ချောမွေ့ ဖွံ့ဖြိုးလာစေရေးအတွက်လည်း လုပ်ထုံးလုပ်နည်းဆိုင်ရာ ဖြေလျှော့မှုများ ဆောင်ရွက်ပေးလျက်ရှိပါသည်။

- ထို့ပြင် ပြည်သူများ၊ တောင်သူလယ်သမားများနှင့် အလုပ်သမားများ၏ လူမှုစီးပွားဘဝ ဖွံ့ဖြိုးလာစေရန် တတ်နိုင်သမျှ ကူညီဆောင်ရွက်ရမည်ဟူသည့် အခြေခံဥပဒေပါ ပြဋ္ဌာန်းချက်နှင့်အညီ ကျေးလက်ဒေသဖွံ့ဖြိုးရေးနှင့် ဆင်းရဲနွမ်းပါးမှုလျှော့ချရေးလုပ်ငန်းစဉ်များကို နိုင်ငံတစ်ဝန်းလုံး၌ လက်တွေ့ကျကျ အကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိပါသည်။ လုပ်ငန်းကဏ္ဍ(၈)ရပ်ချမှတ်ပြီး တစ်နိုင်ငံလုံးရှိ မြို့နယ်ပေါင်း ၃၃၀၊ မြို့နယ်ခွဲ ၈၂ခုတို့၌ အောက်ခြေအထိ ဆင်းပြီး ကျေးလက်ပြည်သူများနှင့်ပူးပေါင်းလျက် လက်တွေ့ထိရောက် အောင်မြင်အောင် ဆောင်ရွက်လျက်ရှိပါသည်။
- ဒီမိုကရေစီဖော်ဆောင်ရေး သို့မဟုတ် ဥပဒေနှင့်အညီ လွတ်လပ်စွာနေထိုင်လုပ်ကိုင် စားသောက်နိုင်ရေးအတွက်လည်း ဒီမိုကရေစီရေး၊ လူ့အခွင့်အရေးများကို အခြေခံဥပဒေနှင့်အညီ မြှင့်တင်ဖော်ဆောင်ပေးလျက်ရှိပါသည်။
- ထိုသို့ ဘက်စုံ၊ ထောင့်စုံ၊ ကဏ္ဍစုံတွင် ပြုပြင်ပြောင်းလဲမှုများဖြင့် နိုင်ငံနှင့်ပြည်သူတို့၏ အကျိုးကို အကောင်အထည်ဖော်ဆောင်ရွက်မှုများနှင့် တစ်ပြိုင်တည်း နိုင်ငံတကာဆက်ဆံရေးကိုလည်း ကျယ်ကျယ်ပြန့်ပြန့် မြှင့်တင်ဆောင်ရွက်ခဲ့ရာ နိုင်ငံတကာနှင့် ချစ်ကြည်မှု၊ နားလည်မှုများ ပိုမိုမြင့်မားလာသည်ကို တွေ့မြင်နိုင်ပါသည်။
- ထိုသို့ နိုင်ငံနှင့်ပြည်သူတို့၏ အကျိုးအတွက် ဘက်စုံ၊ ထောင့်စုံမှ ပြုပြင်ပြောင်းလဲ ဆောင်ရွက်ရာတွင် အောင်မြင်စွာ အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရေးအတွက် ဥပဒေပေါင်း(၁၅)ခုကို အသစ်ပြဋ္ဌာန်းခြင်း၊ ပြင်ဆင်ဖြည့်စွက်ခြင်း ပြုလုပ်ခဲ့ရပါသည်။ ထိုသို့ ဥပဒေသစ်ပြဋ္ဌာန်းခြင်း၊ ပြင်ဆင်ဖြည့်စွက်ခြင်း အပါအဝင် အထက်၌တင်ပြခဲ့သည့် လုပ်ငန်းများကို အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ပြည်ထောင်စု လွှတ်တော်၏ ထောက်ခံအားပေးမှု ရရှိခဲ့သည့်အတွက် အထူးကျေးဇူးတင်ရှိပါသည်။
- မိမိတို့နိုင်ငံသည် ပါတီစုံဒီမိုကရေစီစနစ်နှင့် နှစ်ပေါင်း(၄၀)ကျော် ကင်းကွာခဲ့ရသည့်အတွက် ယခုကဲ့သို့ လွှတ်တော်အဆင့်ဆင့် ပေါ်ပေါက်လာချိန်တွင် လွှတ်တော်အတွင်း လုပ်ထုံးလုပ်နည်းများနှင့် စပ်လျဉ်း၍ ခက်ခက်ခဲခဲ ရှာဖွေလေ့လာကျင့်သုံးခဲ့ရသည်ကို တွေ့ရှိရပါသည်။ သို့သော်လည်း လွှတ်တော်ဥက္ကဋ္ဌများ၏ စွမ်းရည်ရှိရှိ ဦးဆောင်မှု၊ လွှတ်တော်ကိုယ်စားလှယ်များ၏ ပါဝင်ပူးပေါင်းကြိုးပမ်းဆောင်ရွက်မှုများကြောင့် နိုင်ငံနှင့်ပြည်သူအကျိုးအတွက် အဓိကကျသည့် ဥပဒေသစ်များပြဋ္ဌာန်းခြင်း၊ ဥပဒေဟောင်းများကို ပြင်ဆင်ဖြည့်စွက်ခြင်း၊ အရေးကြီးသည့် မူဝါဒများကို ဆွေးနွေးချမှတ်ခြင်း စသည်တို့ကို အောင်မြင်စွာ ဆောင်ရွက်နိုင်ခဲ့ကြောင်း ဝမ်းသာဂုဏ်ယူဖွယ် တွေ့ရှိရပါသည်။



- ထို့အတူ ယခုစတင်ကျင်းပသည့် ပထမအကြိမ် ပြည်သူ့လွှတ်တော်၊ အမျိုးသားလွှတ်တော် တတိယအကြိမ် ပုံမှန်အစည်းအဝေးတွင်လည်း တန်ဖိုးရှိလှသော လွှတ်တော်အစည်းအဝေးကာလအတွင်း နိုင်ငံနှင့်ပြည်သူများအတွက် အဓိကအရေးကြီးမည့် ဥပဒေရေးဆိုင်ရာကိစ္စများ၊ မူဝါဒဆိုင်ရာနှင့် ပြည်ထောင်စုရေးရာကိစ္စများကို ပိုမိုအလေးထား အကောင်အထည်ဖော် ဆွေးနွေးဆောင်ရွက်သွားနိုင်လိမ့်မည်ဟု ယုံကြည်ပါသည်။
- မိမိတို့ ပြည်ထောင်စုအစိုးရအဖွဲ့အနေဖြင့်လည်း ပြည်သူ့လွှတ်တော်၊ အမျိုးသားလွှတ်တော်တို့နှင့် လက်တွဲပြီး နိုင်ငံနှင့်ပြည်သူတို့၏ အနာဂတ်ဘဝ သာယာလှပစေရန်အတွက် တရားမျှတခြင်း၊ လွတ်လပ်ခြင်းနှင့် ညီမျှခြင်းတည်းဟူသော လောကပါလတရားများ ထွန်းကားသည့် ခေတ်မီဖွံ့ဖြိုးတိုးတက်သော ဒီမိုကရေစီ နိုင်ငံတော်ကြီး ဖြစ်ထွန်းပေါ်ပေါက်လာစေရန်နှင့် ရေရှည်တည်တံ့ရှင်သန်နိုင်စေရန် ကြိုးပမ်းအကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း သဝဏ်လွှာအဖြစ် ပေးပို့အပ်ပါသည်။

## နိုင်ငံတော်သမ္မတ ဦးသိန်းစိန် တာဝန်ထမ်းဆောင်မှု (၁)နှစ်ပြည့်အထိမ်းအမှတ်အဖြစ် (၁-၃-၂၀၁၂) ရက်နေ့တွင် ကျင်းပသည့် ပထမအကြိမ် ပြည်ထောင်စုလွှတ်တော် တတိယပုံမှန်အစည်းအဝေးသို့ ပြောကြားသည့် မိန့်ခွန်းကောက်နုတ်ချက်

- ✦ ကျွန်တော်တို့ မိဘပြည်သူတွေဟာ ခေတ်အဆက်ဆက်၊ အစိုးရ စနစ်မျိုးစုံကို တွေ့ကြုံခံစားခဲ့ကြသူတွေဖြစ်ပါတယ်။ ကျွန်တော်တို့ရဲ့ လက်တွေ့လုပ်ဆောင်ချက်တွေ၊ ပကတိအခြေအနေမှန်တွေကိုကြည့်ပြီး ကျွန်တော်တို့အစိုးရဟာ ဘယ်လိုအစိုးရမျိုး ဖြစ်သလဲဆိုတာ အကဲဖြတ်ကြမှာဖြစ်သလို ဒီကနေ့ ကျွန်တော်တို့အစိုးရ ဆောင်ရွက်နေတာဟာ နိုင်ငံတော်နဲ့ပြည်သူတွေရဲ့ အနာဂတ်သမိုင်းကြောင်းအတွက် အထူးပဲအရေးကြီးလှတဲ့ လမ်းကြောင်းသစ်အပေါ်မှာ လျှောက်လှမ်းနေရတယ်ဆိုတာကိုလည်း ကျွန်တော်တို့ လေးလေးနက်နက် သိရှိနားလည်ခံယူထားပြီး ဖြစ်ပါတယ်။
- ✦ ကျွန်တော်တို့နိုင်ငံရဲ့ ဒီမိုကရေစီအသွင်ကူးပြောင်းမှုဖြစ်စဉ်ဟာ မိဘပြည်သူများအတွက် တကယ့်ကို ဂုဏ်ယူဝမ်းမြောက်ဖွယ်ရာ၊ စံနမူနာ သာဓကပြုဖွယ်ရာ အောင်မြင်တဲ့ ကူးပြောင်းမှုကြီးပဲ ဖြစ်ပါတယ်။ ဒီအခြေအနေကို ရောက်ရှိအောင် ဘယ်သူတွေ ဆောင်ရွက်ခဲ့တာလဲ။ ကျွန်တော်တို့ အစိုးရချည်းပဲ သက်သက်မဟုတ်ပါဘူး။ နိုင်ငံရေးပါတီတွေ၊ အရပ်ဘက်က လူ့အဖွဲ့အစည်းတွေ၊ လွှတ်တော်အရပ်ရပ်က လွှတ်တော်ကိုယ်စားလှယ်ကြီးတွေ၊ တရားစီရင်ရေးမဏ္ဍိုင်နဲ့ စတုတ္ထမဏ္ဍိုင်မီဒီယာတွေ၊ တိုင်းရင်းသားခေါင်းဆောင်တွေ၊ တပ်မတော် စတဲ့ သက်ဆိုင်ရာ Stakeholder တွေ အားလုံးက စည်းစည်းလုံးလုံး ညီညီညွတ်ညွတ်နဲ့ ဦးထမ်းပဲ့ထမ်း ဆောင်ရွက်ခဲ့ကြတာဖြစ်ပါတယ်။
- ✦ ကျွန်တော်တို့ အစိုးရ စတင်တာဝန်ယူခဲ့ချိန်မှာပဲ မိဘပြည်သူတွေအားလုံး လိုလားတောင့်တနေခဲ့တဲ့ အဓိကဆန္ဒ(၂)ရပ်ကို ဖြည့်ဆည်းနိုင်ဖို့ ကြိုးပမ်းဆောင်ရွက်ခဲ့တာဖြစ်ပါတယ်။ **ပထမဆန္ဒ**က ကျွန်တော်တို့ပြည်သူတွေဟာ တည်တည်ငြိမ်ငြိမ် အေးအေးချမ်းချမ်းနဲ့ နေထိုင်လိုကြပါတယ်။ မိဘပြည်သူတွေရဲ့ ဒီဆန္ဒကို အခြေခံပြီး အမျိုးသားပြန်လည်စည်းလုံးညီညွတ်ရေး၊ ထာဝရငြိမ်းချမ်းရေး ဆောင်ကြဉ်းရေးစတဲ့ နိုင်ငံရေးလုပ်ငန်းစဉ်တွေကို ကျွန်တော်တို့ အလေးပေးပြီး ဆောင်ရွက်ခဲ့တာဖြစ်ပါတယ်။ မြန်မာ့နိုင်ငံရေးလုပ်ငန်းစဉ်မှာ



ပါဝင်သင့် ပါဝင်ထိုက် ပါဝင်နိုင်သူတွေအားလုံး ပါဝင်ခွင့်ရရှိရေးဆိုတဲ့ All Inclusive Political Process ကို ကျွန်တော်တို့ ကြိုးပမ်းတည်ဆောက်ခဲ့ပါတယ်။ ဒီကနေ့ဆိုရင် ကျွန်တော်တို့တည်ဆောက်ခဲ့တဲ့၊ ကျွန်တော်တို့ ကြိုးပမ်းခဲ့တဲ့ နိုင်ငံရေးလုပ်ငန်းစဉ်ဟာ သိသိသာသာ အကောင်အထည်ပေါ်လာစပြုနေပြီ ဖြစ်ပါတယ်။ ဒီလမ်းကြောင်းမှန် ပေါ်ထွန်းလာစေဖို့ ပြည်သူလူထုတစ်ရပ်လုံးရဲ့ဆန္ဒ၊ ကျွန်တော်တို့ အစိုးရရဲ့ စစ်မှန်တဲ့စေတနာ၊ နိုင်ငံနဲ့ပြည်သူလူထုအကျိုးကို ဦးထိပ်ထားတဲ့ခံယူချက် ဒါတွေနဲ့ ကျွန်တော်တို့ လျှောက်လှမ်းခဲ့တာဖြစ်ပါတယ်။ အခုဆိုရင် ပြည်တွင်းနိုင်ငံရေး အင်အားစုအားလုံးဟာ အခြေခံဥပဒေ မူဘောင်အတွင်းကနေ ဒီမိုကရေစီကျင့်စဉ်တွေကို လိုက်နာကျင့်သုံးပြီး ပြည်သူ့ကိုယ်စားလှယ်တွေအဖြစ် ပါဝင်ဆောင်ရွက်နိုင်ဖို့ စိတ်အားထက်သန်စွာ ကြိုးပမ်းလာကြတာကိုလည်း ဝမ်းမြောက်ဖွယ်ရာ မြင်တွေ့နေရပြီဖြစ်ပါတယ်။

- ✦ အလားတူပဲ အမျိုးသားပြန်လည်ပေါင်းစည်းညီညွတ်ရေးနဲ့ နိုင်ငံတည်ဆောက်ရေးမှာ အားလုံးပါဝင်ခွင့်ရရှိရေးအတွက် ရည်ရွယ်ပြီး ကျွန်တော်တို့အစိုးရရဲ့ (၁)နှစ်တာ ကာလသက်တမ်းအတွင်းမှာ အကျဉ်းသားပေါင်း နှစ်သောင်းရှစ်ထောင်ကျော်ကို လွတ်ငြိမ်းချမ်းသာခွင့် ပေးခဲ့ပြီးဖြစ်ပါတယ်။ ဒါဟာ သမိုင်းတစ်လျှောက် ပြန်ကြည့်ရင် (၁)နှစ်အတွင်း လွတ်ငြိမ်းချမ်းသာခွင့်အကြိမ်ရေအများဆုံးပေးခဲ့တဲ့ မှတ်တမ်းအသစ်လည်း ဖြစ်ပါတယ်။ ပွင့်ပွင့်လင်းလင်းပြောရရင် ကြားဖြတ်ရွေးကောက်ပွဲမှာ အားလုံးပါဝင်ခွင့်ရရှိရေးကို မျှော်မှန်းပြီး ဇန်နဝါရီလအတွင်းမှာ (၂)ကြိမ်တိုင်တိုင် ဆောင်ရွက်ပေးခဲ့တာလည်း ဖြစ်ပါတယ်။ အကြောင်းအမျိုးမျိုးကြောင့် ပြည်ပနိုင်ငံတွေမှာ ရောက်ရှိနေကြတဲ့ မြန်မာနိုင်ငံသားတွေကိုလည်း လမ်းဖွင့်ကြိုဆိုဖိတ်ခေါ်ခဲ့တာနဲ့အညီ နယ်ပယ်အသီးသီးမှာ ရောက်ရှိနေကြတဲ့ ပြည်ပရောက် မြန်မာတွေဟာလည်း တက်တက်ကြွကြွ စိတ်အားထက်သန်စွာနဲ့ တတ်နိုင်သမျှ ဝိုင်းဝန်းကူညီဆောင်ရွက်လာကြတာကိုလည်း ဝမ်းမြောက်ဖွယ်ရာ တွေ့ရှိရပါတယ်။ ဒီမိုကရေစီနိုင်ငံရေးစနစ် ခိုင်မာရင့်သန်ဖို့ ခိုင်မာတောင့်တင်းတဲ့ နိုင်ငံရေးမျိုးဆက်သစ်တွေ လိုအပ်ပါတယ်။ မျိုးဆက်သစ်၊ မျိုးဆက်ဟောင်းအားလုံး Common Ground ရှာဖွေနိုင်ပြီး

စုပေါင်းစွမ်းအားနဲ့ နိုင်ငံတည်ဆောက်သွားနိုင်ရေးဟာ ကျွန်တော်တို့ နိုင်ငံတော်နဲ့ နိုင်ငံသားအားလုံးရဲ့ အနာဂတ်နဲ့ တိုက်ရိုက်ဆက်စပ်လျက်ရှိနေပါတယ်။

✦ ဒီကနေ့မှာ အလျဉ်းသင့်လို့ တိုင်းရင်းသားခေါင်းဆောင်တစ်ဦး မကြာသေးခင်က ပြောခဲ့တဲ့ စကားလေး ကျွန်တော်ပြောပြချင်ပါတယ်။ (၁၈)နှစ်၊ (၁၉)နှစ် အရွယ်ရှိတဲ့ လက်နက်ကိုင်တိုင်းရင်းသားလူငယ်တွေက ပြောကြတယ်၊ **ကျွန်တော်တို့လည်း လက်ပ်တော့တွေ၊ ကွန်ပျူတာတွေကိုင်ချင်တယ်** ဆိုတဲ့ စကားဖြစ်ပါတယ်။ ကျွန်တော် တကယ့်ကိုပဲ စိတ်မကောင်းဖြစ်ရပါတယ်။ ကျွန်တော် အခိုင်အမာ သန္နိဋ္ဌာန်ချထားပါတယ်။ ကျွန်တော်တို့အစိုးရလက်ထက်မှာ ဒီလိုမယုံမရဲ ဖြစ်နေတဲ့ စိုးရွံ့မှုတွေ မပျောက်ပျောက်အောင် ဖျောက်ပစ်ရပါမယ်။ ဒါဟာ ကျွန်တော်တို့ အစိုးရရဲ့ ခံယူချက်လည်းဖြစ်ပါတယ်။ ကျွန်တော်တို့ တိုင်းရင်းသားတွေ ခံစားနေကြရတဲ့ ခါးသီးတဲ့ဒဏ်ရာတွေ၊ စူးနစ်တဲ့ အတွေ့အကြုံတွေ၊ ပျောက်ဆုံးနေတဲ့ အိပ်မက်တွေ ကျွန်တော်တို့အားလုံး ဖြည့်ဆည်းပေးဖို့ တာဝန်ရှိပါတယ်။ ဒါဟာ ကျွန်တော်တို့အားလုံးအတွက် သမိုင်းပေးတာဝန်တစ်ရပ်လည်းဖြစ်ပါတယ်။ အဲဒီတော့ ဒီတာဝန်ကြီးဟာ ကျွန်တော်တို့အတွက် ခက်ခဲကြီးလေးတဲ့ တာဝန်ကြီးဖြစ်မယ်ဆိုတာလည်း ကျွန်တော်တို့ သိရှိနားလည်ထားပါတယ်။ ဒါပေမယ့် ဒီတာဝန်ကြီးကို အကောင်အထည်ဖော်ဆောင်ရွက်ဖို့ ကျွန်တော်တို့မှာ ယုံကြည်ချက်အပြည့်အဝ ရှိပါတယ်။ အခုဆိုရင် တိုင်းရင်းသားခေါင်းဆောင်တွေနဲ့ ထိတွေ့ဆက်ဆံပြီးတဲ့ အချိန်မှာ ဒီယုံကြည်ချက်ဟာ ပိုပိုပြီးခိုင်မာလာပြီဖြစ်ပါတယ်။

✦ ကျွန်တော်တို့အစိုးရအနေနဲ့ ထာဝရငြိမ်းချမ်းရေးအတွက် အဆင့်(၃)ဆင့်ချမှတ်ပြီး အကောင်အထည်ဖော်ဆောင်ရွက်နေတာဖြစ်ပါတယ်။ **ပထမအဆင့်**ဟာ ပြည်နယ်အဆင့် တွေ့ဆုံဆွေးနွေးဖို့ဖြစ်ပါတယ်။ ပြည်နယ်အဆင့်မှာ နှစ်ဖက်ရန်လိုမှုတွေနဲ့ ပစ်ခတ်တိုက်ခိုက်မှုတွေ ရပ်စဲဖို့၊ နှစ်ဦးနှစ်ဖက် ညှိနှိုင်းသဘောတူထားတဲ့ နယ်မြေဒေသတွေမှာပဲ နေထိုင်ကြဖို့၊ ယင်းသတ်မှတ်နေရာမှအပ ကျန်နေရာဒေသများကို သွားရောက်လိုလျှင် လက်နက်ကိုင်ဆောင်ခြင်းမပြုဘဲ သွားလာဖို့၊ နှစ်ဖက်ညှိနှိုင်းသဘောတူထားသည့်နေရာများမှာ ဆက်ဆံရေးရုံးတွေ ဖွင့်လှစ်ထားရှိဖို့၊ ပြည်ထောင်စုအဆင့် ဆွေးနွေးပွဲကျင်းပပြုလုပ်မယ့်နေရာ၊ အချိန်၊ နေ့ရက်တွေ ညှိနှိုင်းသတ်မှတ်နိုင်ဖို့ပဲ ဖြစ်ပါတယ်။ ဒီအဆင့်မှာ နိုင်ငံရေးအရ ဆွေးနွေးညှိနှိုင်းမှုတွေ မပါသေးပါဘူး။ ဒီအဆင့်ကို ပြီးမြောက်အောင်မြင်ဖို့ ငြိမ်းချမ်းရေးကို အမှန် တကယ်လိုလားတဲ့ စိတ်ရင်းစေတနာပဲ လိုအပ်မှာဖြစ်ပါတယ်။ ပစ်ခတ်တိုက်ခိုက်မှု တွေရပ်စဲပြီး နိုင်ငံရေးဆွေးနွေးဖို့ နှစ်ဦးနှစ်ဖက်သဘောတူလိုက်တဲ့ အနေအထားပဲ ဖြစ်ပါတယ်။



✦ **ဒုတိယအဆင့်**ကတော့ ပြည်ထောင်စုအဆင့်ပဲ ဖြစ်ပါတယ်။ ဒီအဆင့်မှာ ဆွေးနွေးရမယ့်အချက်တွေကတော့ ပြည်ထောင်စုကနေ ဘယ်တော့မှ ခွဲမထွက်ဖို့၊ ဒို့တာဝန်အရေးသုံးပါးကို လက်ခံဖို့၊ စီးပွားရေးနဲ့ ဖွံ့ဖြိုးတိုးတက်ရေး လုပ်ငန်းများမှာ နှစ်ဖက်ပူးပေါင်းဆောင်ရွက်ဖို့၊ မူးယစ်ဆေးဝါးနဲ့ စိတ်ကိုပြောင်းလဲစေတတ်တဲ့ ဆေးဝါးများ တိုက်ဖျက်ရေး ပူးပေါင်းဆောင်ရွက်ဖို့၊ နိုင်ငံရေးပါတီများ ထူထောင်ပြီး နိုင်ငံရေးလုပ်ငန်းစဉ်တွေမှာ ပါဝင်ဆောင်ရွက်ဖို့၊ လွှတ်တော်တွင်းရောက်ရှိလာလျှင် အခြားသောတိုင်းရင်းသားများနှင့် အကျေအလည်ဆွေးနွေးညှိနှိုင်းပြီး ဖွဲ့စည်းပုံ အခြေခံဥပဒေပြင်ဆင်ဖို့၊ ဖွဲ့စည်းပုံအခြေခံဥပဒေနဲ့အညီ တစ်ခုတည်းသော လက်နက်ကိုင်တပ်မတော်အဖြစ် ရပ်တည်ရေး ညှိနှိုင်းဆောင်ရွက်ဖို့ စတဲ့အချက်တွေပဲ ဖြစ်ပါတယ်။ ဒီအချက်တွေကို နှစ်ဦးနှစ်ဖက် ညှိနှိုင်းပြီး သဘောတူညီချက်ရပြီဆိုရင် တတိယအဆင့်ကို ဆက်လက်ဆောင်ရွက်သွားမှာ ဖြစ်ပါတယ်။

✦ **တတိယအဆင့်**မှာတော့ နိုင်ငံတော်အစိုးရ၊ တိုင်းရင်းသားခေါင်းဆောင်တွေ၊ နိုင်ငံရေးပါတီနဲ့ နိုင်ငံရေးအင်အားစုတွေ၊ ပြည်သူ့ကိုယ်စားလှယ်တွေစတဲ့ နိုင်ငံတော်မှာရှိတဲ့ အဓိကကျတဲ့ Political Player တွေ အားလုံးပါဝင်တဲ့ ဤလွှတ်တော်ကြီးမှာ သဘောတူလက်မှတ်ရေးထိုးကြဖို့ ဖြစ်ပါတယ်။ ဤလွှတ်တော်ကြီးအတွင်းမှာပဲ ထာဝရငြိမ်းချမ်းရေးကို မဖြစ်မနေဆောင်ကြဉ်းမယ့် သန္နိဋ္ဌာန်ကို ကျွန်တော်တို့ အားလုံးဝမ်းမြောက်ဝမ်းသာ စိုက်ထူကြရမှာဖြစ်ပါတယ်။ ဒီလို ထာဝရငြိမ်းချမ်းရေးပန်းတိုင်ကို တက်လှမ်းကြရာမှာ နိုင်ငံတော်လည်း ပန်းတိုင်ရောက်၊ တိုင်းရင်းသားတွေလည်း ပန်းတိုင်ရောက်၊ နိုင်ငံသားအားလုံးလည်း ပန်းတိုင်ရောက်စေဖို့ အပြန်အလှန်နားလည်ယုံကြည်မှု၊ တန်းတူရည်တူရှိမှု၊ ဖွံ့ဖြိုးတိုးတက်မှုဆိုတဲ့ ဒေါက်တိုင်ကြီး (၃)ရပ်နဲ့ တည်ဆောက်

၉။ တိုင်းဒေသကြီး (သို့မဟုတ်)ပြည်နယ်ဝန်ကြီး အဖွဲ့ဝင်
စက်မှုဝန်ကြီးဌာန

၁၀။ တိုင်းဒေသကြီး (သို့မဟုတ်)ပြည်နယ်ဦးစီးမှူး အဖွဲ့ဝင်
သစ်တောဦးစီးဌာန
သစ်တောရေးရာဝန်ကြီးဌာန

၁၁။ တိုင်းဒေသကြီး (သို့မဟုတ်)ပြည်နယ်အုပ်ချုပ်ရေးမှူး အတွင်းရေးမှူး
အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ပြည်ထဲရေးဝန်ကြီးဌာန



## ပြောရေးဆိုခွင့်နှင့် သတင်းထုတ်ပြန်ရေးအဖွဲ့ (၁၀-၈-၂၀၁၁)

၁။ ဦးကျော်ဆန်း အဖွဲ့ခေါင်းဆောင်
ပြည်ထောင်စုဝန်ကြီး
ပြန်ကြားရေးဝန်ကြီးဌာန

၂။ ဗိုလ်မှူးချုပ်ကျော်ဇံမြင့် အဖွဲ့ဝင်
ဒုတိယဝန်ကြီး
ပြည်ထဲရေးဝန်ကြီးဌာန

၃။ ဦးမောင်မြင့် အဖွဲ့ဝင်
ဒုတိယဝန်ကြီး
နိုင်ငံခြားရေးဝန်ကြီးဌာန

၄။ ဦးစိုးဝင်း အဖွဲ့ဝင်
ဒုတိယဝန်ကြီး
ပြန်ကြားရေးဝန်ကြီးဌာန

၅။ ဦးမြင့်သိန်း အဖွဲ့ဝင်
ဒုတိယဝန်ကြီး
အလုပ်သမားဝန်ကြီးဌာန

၆။ ဦးထွန်းထွန်းဦး အဖွဲ့ဝင်
ဒုတိယရှေ့နေချုပ်
ပြည်ထောင်စုရှေ့နေချုပ်ရုံး

၇။ ရဲချုပ်ကျော်ကျော်ထွန်း အဖွဲ့ဝင်
ရဲချုပ်
မြန်မာနိုင်ငံရဲတပ်ဖွဲ့

၈။ ဗိုလ်မှူးကြီးလူအေး အဖွဲ့ဝင်
စစ်ဦးစီးဗိုလ်မှူးချုပ်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)

၉။ ဦးတင်မျိုးကြည် — အဖွဲ့ဝင်
ညွှန်ကြားရေးမှူးချုပ်
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

၁၀။ ဦးရဲမင်း — အဖွဲ့ဝင်
ဒုတိယညွှန်ကြားရေးမှူးချုပ်
သမ္မတဦးစီးရုံး

၁၁။ ဦးဇော်မင်းဦး — အတွင်းရေးမှူး
ဦးဆောင်ညွှန်ကြားရေးမှူး
သတင်းနှင့်စာနယ်ဇင်းလုပ်ငန်း



## မြန်မာနိုင်ငံ အမျိုးသားလူ့အခွင့်အရေးကော်မရှင် (၅-၉-၂၀၁၁)

၁ ။ ဦးဝင်းမြ — ဥက္ကဋ္ဌ
သံအမတ်ကြီး(အငြိမ်းစား)

၂ ။ ဦးကျော်တင့်ဆွေ — ဒုတိယဥက္ကဋ္ဌ
သံအမတ်ကြီး(အငြိမ်းစား)

၃ ။ ဦးထွန်းအောင်ချိန် — အဖွဲ့ဝင်
ပါမောက္ခ(အငြိမ်းစား)
သမိုင်းဌာန

၄ ။ ဦးလှမြင့် — အဖွဲ့ဝင်
သံအမတ်ကြီး(အငြိမ်းစား)

၅ ။ ဦးသန်းဆွေ — အဖွဲ့ဝင်
ညွှန်ကြားရေးမှူးချုပ်(အငြိမ်းစား)
သစ်တောဦးစီးဌာန

၆ ။ ဒေါက်တာညဏ်ဇော် — အဖွဲ့ဝင်
ပြည်နယ်ဆရာဝန်ကြီး(အငြိမ်းစား)

၇ ။ ဒေါက်တာဒေါ်သန်းနွဲ့ — အဖွဲ့ဝင်
ပါမောက္ခ(အငြိမ်းစား)
ဥပဒေပညာဌာန

၈။ ဒေါ်စောခင်ကြီး — အဖွဲ့ဝင်
ပါမောက္ခ(အငြိမ်းစား)
နိုင်ငံတကာဆက်ဆံရေးပညာဌာန

၉။ ဦးတင်ညို — အဖွဲ့ဝင်
ညွှန်ကြားရေးမှူးချုပ်(အငြိမ်းစား)
အခြေခံပညာဦးစီးဌာန

၁၀။ ဦးခွထီးရို — အဖွဲ့ဝင်
ပြည်နယ်ဥပဒေအရာရှိ(အငြိမ်းစား)

၁၁။ ဦးခင်မောင်လေး — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး(အငြိမ်းစား)
အလုပ်သမားညွှန်ကြားမှုဦးစီးဌာန

၁၂။ ဦးလဖိုင်ဇော်ဂွန်း — အဖွဲ့ဝင်
သံမှူးကြီး(အငြိမ်းစား)

၁၃။ ဦးညွန့်ဆွေ — အဖွဲ့ဝင်
ဒုတိယညွှန်ကြားရေးမှူးချုပ်(အငြိမ်းစား)
နိုင်ငံခြားရေးဝန်ကြီးဌာန

၁၄။ ဒေါ်စန်းစန်း — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး(အငြိမ်းစား)
အလုပ်သမားညွှန်ကြားမှုဦးစီးဌာန

၁၅။ ဦးစစ်မြိုင် — အတွင်းရေးမှူး
ညွှန်ကြားရေးမှူးချုပ်(အငြိမ်းစား)
လူမှုဝန်ထမ်းဦးစီးဌာန



## မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေးဗဟိုကော်မတီ (၁၆-၁၁-၂၀၁၁)

၁။ ပြည်ထောင်စုဝန်ကြီး — ဥက္ကဋ္ဌ
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

၂။ ပြည်ထောင်စုဝန်ကြီး — ဒုတိယဥက္ကဋ္ဌ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

၃။ ဒုတိယဝန်ကြီး (လယ်ယာ) — အဖွဲ့ဝင်
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

၄။ ဒုတိယဝန်ကြီး (ဆည်မြောင်း) — အဖွဲ့ဝင်
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

၅။ ဒုတိယဝန်ကြီး — အဖွဲ့ဝင်
အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

၆။ ဒုတိယဝန်ကြီး — အဖွဲ့ဝင်
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန

၇။ ညွှန်ကြားရေးမှူးချုပ် — အဖွဲ့ဝင်
အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ပြည်ထဲရေးဝန်ကြီးဌာန

၈။ ဦးဆောင်ညွှန်ကြားရေးမှူး — အဖွဲ့ဝင်
မြန်မာ့စိုက်ပျိုးရေးလုပ်ငန်း၊ လယ်ယာစိုက်ပျိုးရေးနှင့်
ဆည်မြောင်းဝန်ကြီးဌာန

၉။ ဦးဆောင်ညွှန်ကြားရေးမှူး — အဖွဲ့ဝင်
မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

၁၀။ ညွှန်ကြားရေးမှူးချုပ် — အဖွဲ့ဝင်
စီမံကိန်းနှင့် စာရင်းအင်းဦးစီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

၁၁။ ညွှန်ကြားရေးမှူးချုပ် အဖွဲ့ဝင်
သတ္တုတွင်းဦးစီးဌာန၊ သတ္တုတွင်းဝန်ကြီးဌာန

၁၂။ ညွှန်ကြားရေးမှူးချုပ် အဖွဲ့ဝင်
သမဝါယမဦးစီးဌာန၊ သမဝါယမဝန်ကြီးဌာန

၁၃။ ညွှန်ကြားရေးမှူးချုပ် အဖွဲ့ဝင်
စီမံကိန်းရေးဆွဲရေးဦးစီးဌာန၊ အမျိုးသားစီမံကိန်းနှင့်
စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

၁၄။ ညွှန်ကြားရေးမှူးချုပ် အတွင်းရေးမှူး
ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

၁၅။ ညွှန်ကြားရေးမှူးချုပ် တွဲဖက်အတွင်းရေးမှူး
သစ်တောဦးစီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန



## တည်ဆဲဥပဒေများအား စိစစ်သုံးသပ်ရေးကော်မရှင် (၁၆-၁၁-၂၀၁၁)

၁။ ဦးနန္ဒကျော်စွာ ဥက္ကဋ္ဌ
ပြည်သူ့လွှတ်တော်ဒုတိယဥက္ကဋ္ဌ

၂။ ဦးသိန်းဆွေ ဒုတိယဥက္ကဋ္ဌ
အမ်းမဲဆန္ဒနယ်

၃။ ဦးဌေးမြင့် ဒုတိယဥက္ကဋ္ဌ
မြိတ်မဲဆန္ဒနယ်

၄။ ဦးလင်းမြိုင် အဖွဲ့ဝင်
သံအမတ်ကြီး (အငြိမ်းစား)

၅။ ဦးမြသိန်း အဖွဲ့ဝင်
ညွှန်ကြားရေးမှူးချုပ်(အငြိမ်းစား)
ပြည်ထောင်စုတရားလွှတ်တော်ချုပ်

၆။ ဦးသန်းထွန်း အဖွဲ့ဝင်
ညွှန်ကြားရေးမှူးချုပ်(အငြိမ်းစား)
နိုင်ငံခြားရေးဝန်ကြီးဌာန

၇။ ဒေါက်တာအောင်ထွန်းသက် အဖွဲ့ဝင်

ပါမောက္ခ(အငြိမ်းစား)

၈။ ဒုတိယဗိုလ်မှူးကြီး အောင်ခင်သိန်း အဖွဲ့ဝင်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ဥပဒေချုပ်ရုံး

၉။ ဒေါက်တာတင်မေထွန်း အဖွဲ့ဝင်
ပါမောက္ခ

၁၀။ ဒေါက်တာသီတာဦး အဖွဲ့ဝင်
ပါမောက္ခ

၁၁။ ဦးတင်ဝင်း အဖွဲ့ဝင်
ညွှန်ကြားရေးမှူး (အငြိမ်းစား)၊ တရားရုံးချုပ်

၁၂။ ဦးခင်မောင်ဦး အဖွဲ့ဝင်
တိုင်းဒေသကြီး ဥပဒေအရာရှိ (အငြိမ်းစား)

၁၃။ ဦးမြင့်လွင် အဖွဲ့ဝင်
တရားလွှတ်တော်ရှေ့နေ

၁၄။ ဦးသန်းမောင် အဖွဲ့ဝင်
တရားလွှတ်တော်ရှေ့နေ

၁၅။ ဒေါ်သန်းသန်းရီ အဖွဲ့ဝင်
ဒုတိယညွှန်ကြားရေးမှူး (အငြိမ်းစား)
ပြည်ထောင်စုရှေ့နေချုပ်ရုံး

* **အတွင်းရေးမှူး သီးခြားသတ်မှတ်မည်**



## အရေးကြီးသည့် ဥပဒေ/ညွှန်ကြားချက်များ

၁။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ဥပဒေအမှတ် (၁/၂၀၁၀)ဖြင့် ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်ဥပဒေကို ၂၀၁၀ ပြည့်နှစ်၊ မတ်လ ၈ ရက်နေ့တွင် ထုတ်ပြန်ကြေညာခဲ့သည်။

၂။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ဥပဒေအမှတ် (၂/၂၀၁၀)ဖြင့် နိုင်ငံရေးပါတီများ မှတ်ပုံတင်ခြင်းဥပဒေကို ၂၀၁၀ ပြည့်နှစ်၊ မတ်လ ၈ ရက်နေ့တွင် ထုတ်ပြန်ကြေညာခဲ့သည်။

၃။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ဥပဒေအမှတ် (၃/၂၀၁၀)ဖြင့် ပြည်သူ့လွှတ်တော်ရွေးကောက်ပွဲဥပဒေကို ၂၀၁၀ ပြည့်နှစ်၊ မတ်လ ၈ ရက်နေ့တွင် ထုတ်ပြန်ကြေညာခဲ့သည်။

၄။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ဥပဒေအမှတ် (၄/၂၀၁၀)ဖြင့် အမျိုးသားလွှတ်တော်ရွေးကောက်ပွဲဥပဒေကို ၂၀၁၀ ပြည့်နှစ်၊ မတ်လ ၈ ရက်နေ့တွင် ထုတ်ပြန်ကြေညာခဲ့သည်။

၅။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ဥပဒေအမှတ် (၅/၂၀၁၀)ဖြင့် တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော် ရွေးကောက်ပွဲဥပဒေကို ၂၀၁၀ပြည့်နှစ်၊ မတ်လ ၈ ရက်နေ့တွင် ထုတ်ပြန် ကြေညာခဲ့သည်။

၆။ ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်က အမိန့်ကြော်ငြာစာအမှတ် (၁/၂၀၁၀)ဖြင့် နိုင်ငံရေးပါတီများ မှတ်ပုံတင်ခြင်းနည်းဥပဒေများကို ၂၀၁၀ပြည့်နှစ်၊ မတ်လ ၁၇ ရက်နေ့တွင် ထုတ်ပြန်ကြေညာခဲ့သည်။

၇။ ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်က အမိန့်ကြော်ငြာစာအမှတ် (၂/၂၀၁၀)ဖြင့် ပြည်သူ့လွှတ်တော်ရွေးကောက်ပွဲနည်းဥပဒေများကို ၂၀၁၀ပြည့်နှစ်၊ မတ်လ ၁၇ ရက်နေ့တွင် ထုတ်ပြန်ကြေညာခဲ့သည်။

၈။ ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်က အမိန့်ကြော်ငြာစာအမှတ် (၃/၂၀၁၀)ဖြင့် အမျိုးသားလွှတ်တော်ရွေးကောက်ပွဲနည်းဥပဒေများကို ၂၀၁၀ပြည့်နှစ်၊ မတ်လ ၁၇ ရက်နေ့တွင် ထုတ်ပြန်ကြေညာခဲ့သည်။

၉။ ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်က အမိန့်ကြော်ငြာစာအမှတ် (၄/၂၀၁၀)ဖြင့် တိုင်းဒေသကြီးလွှတ်တော် သို့မဟုတ် ပြည်နယ်လွှတ်တော် ရွေးကောက်ပွဲ နည်းဥပဒေများကို ၂၀၁၀ပြည့်နှစ်၊ မတ်လ ၁၇ ရက်နေ့တွင် ထုတ်ပြန်ကြေညာခဲ့သည်။

၁၀။ ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်က ကြေညာချက်အမှတ် (၁/၂၀၁၀) ဖြင့် နိုင်ငံရေးပါတီ တည်ထောင်ခွင့်နှင့် မှတ်ပုံတင်ခွင့်ကို ၂၀၁၀ပြည့်နှစ်၊ မတ်လ ၁၈ ရက်နေ့တွင် ထုတ်ပြန်ကြေညာခဲ့သည်။

၁၁။ ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်က ကြေညာချက်အမှတ် (၂/၂၀၁၀) ဖြင့် နိုင်ငံရေးပါတီဆက်လက် တည်ထောင်ခွင့်နှင့် မှတ်ပုံတင်ခွင့်ကို ၂၀၁၀ ပြည့်နှစ်၊ မတ်လ ၁၈ ရက်နေ့တွင် ထုတ်ပြန်ကြေညာခဲ့သည်။

၁၂။ ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်က ကြေညာချက်အမှတ် (၃/၂၀၁၀) ဖြင့် ပြည်နယ်နှင့်တိုင်း ကော်မရှင်အဖွဲ့ခွဲများ ဖွဲ့စည်းခြင်းကို ၂၀၁၀ ပြည့်နှစ်၊ မတ်လ ၁၈ ရက်နေ့တွင် ထုတ်ပြန်ကြေညာခဲ့သည်။

၁၃။ ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်က ကြေညာချက်အမှတ် (၄/၂၀၁၀) ဖြင့် ခရိုင်ကော်မရှင်အဖွဲ့ခွဲများ ဖွဲ့စည်းတာဝန်ပေးအပ်ခြင်းဆိုင်ရာ ကြေညာချက်များ ၂၀၁၀ပြည့်နှစ်၊ မတ်လ ၁၈ ရက်နေ့တွင် ထုတ်ပြန်ကြေညာခဲ့သည်။



၁၄။ ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်က ကြေညာချက်အမှတ် (၈၉/၂၀၁၀) ဖြင့် ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင် ဥပဒေပုဒ်မ ၈ ပါ တာဝန်နှင့် လုပ်ပိုင်ခွင့်ကိုကျင့်သုံး၍ သက်ဆိုင်ရာ လွှတ်တော်ရွေးကောက်ပွဲ ဥပဒေပုဒ်မ ၃၄(ဂ)နှင့် နည်းဥပဒေပုဒ်မ ၁၆(က)တို့အရ ၁၃၇၂ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၁ရက် (၂၀၁၀ ပြည့်နှစ်၊ နိုဝင်ဘာလ ၇ ရက်) တနင်္ဂနွေနေ့တွင် လွှတ်တော်အသီးသီးအတွက် ပါတီစုံဒီမိုကရေစီ အထွေထွေရွေးကောက်ပွဲများ ကျင်းပပြုလုပ်မည်ဖြစ်ကြောင်း ၂၀၁၀ ပြည့်နှစ်၊ ဩဂုတ်လ ၁၃ ရက်နေ့တွင် ထုတ်ပြန်ကြေညာခဲ့သည်။

၁၅။ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၄၄၃ နှင့် ပြည်သူ့လွှတ်တော်ဆိုင်ရာ ဥပဒေပုဒ်မ ၃၂ တို့က အပ်နှင်းထားသော လုပ်ပိုင်ခွင့်နှင့် တာဝန်အရ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီသည် ပထမအကြိမ် ပြည်သူ့လွှတ်တော်အစည်းအဝေးကို နေပြည်တော်၌ ၁၃၇၂ ခုနှစ်၊ ပြာသိုလပြည့်ကျော် ၁၂ ရက် (၂၀၁၁ ခုနှစ်၊ ဇန်နဝါရီလ ၃၁ရက်) တနင်္လာနေ့ နံနက် ၈နာရီ ၅၅မိနစ်အချိန်တွင် ကျင်းပရန်ခေါ်ယူကြောင်းကို ၁၀-၁-၂၀၁၁ ရက်စွဲပါ ကြေညာချက်အမှတ် (၁/၂၀၁၁)ဖြင့်လည်းကောင်း၊ ပထမအကြိမ် အမျိုးသားလွှတ်တော် အစည်းအဝေးကို ကြေညာချက်အမှတ် (၂/၂၀၁၁)ဖြင့်လည်းကောင်း၊ ပထမအကြိမ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လွှတ်တော် အစည်းအဝေးကို (၃/၂၀၁၁)ဖြင့် လည်းကောင်း ထုတ်ပြန်ကြေညာခဲ့သည်။

## နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ၂၂-၁၀-၂၀၁၀ ရက်နေ့တွင် ပြဋ္ဌာန်းခဲ့သည့် လွှတ်တော်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ (၁၇)မျိုး

၁။ နိုင်ငံတော်အထိမ်းအမှတ်တံဆိပ်ဥပဒေနှင့် နည်းဥပဒေ
၂။ နိုင်ငံတော်သမ္မတနှင့် ဒုတိယသမ္မတရွေးချယ်တင်မြှောက်ခြင်းဆိုင်ရာဥပဒေနှင့် နည်းဥပဒေ
၃။ ပြည်ထောင်စုအစိုးရအဖွဲ့ဥပဒေ
၄။ တိုင်းဒေသကြီး (သို့မဟုတ်) ပြည်နယ်အစိုးရအဖွဲ့ဥပဒေ
၅။ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရတိုင်း (သို့မဟုတ်) ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဒေသဦးစီး အဖွဲ့ဥပဒေ
၆။ နေပြည်တော်ကောင်စီဥပဒေ
၇။ နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာ ခုံရုံးဥပဒေ
၈။ ပြည်ထောင်စုရာထူးဝန်အဖွဲ့ဥပဒေ
၉။ နိုင်ငံတော်အလံဥပဒေနှင့် နည်းဥပဒေ
၁၀။ နိုင်ငံတော်သီချင်းဥပဒေနှင့် နည်းဥပဒေ
၁၁။ ပြည်ထောင်စုလွှတ်တော်ဆိုင်ရာ ဥပဒေနှင့် နည်းဥပဒေများ
၁၂။ ပြည်သူ့လွှတ်တော်ဆိုင်ရာ ဥပဒေနှင့် နည်းဥပဒေများ
၁၃။ အမျိုးသားလွှတ်တော်ဆိုင်ရာ ဥပဒေနှင့် နည်းဥပဒေများ
၁၄။ တိုင်းဒေသကြီး (သို့မဟုတ်) ပြည်နယ်လွှတ်တော်ဆိုင်ရာ ဥပဒေနှင့် နည်းဥပဒေများ
၁၅။ ပြည်ထောင်စုတရားစီရင်ရေးဥပဒေ
၁၆။ ပြည်ထောင်စု ရှေ့နေချုပ်ဥပဒေ
၁၇။ ပြည်ထောင်စုစာရင်းစစ်ချုပ်ဥပဒေ



## လွှတ်တော်အသီးသီးတွင် လွှတ်တော်ကိုယ်စားလှယ်လစ်လပ်နေသော မဲဆန္ဒနယ်များအတွက် ကြားဖြတ်ရွေးကောက်ပွဲများ ကျင်းပမည့်နေ့ရက် သတ်မှတ်ကြေညာခြင်း (၂၉-၁၂-၂၀၁၁)

ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်သည် ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်ဥပဒေ ပုဒ်မ ၈ ပါ တာဝန်နှင့်လုပ်ပိုင်ခွင့်များကို ကျင့်သုံး၍ သက်ဆိုင်ရာ လွှတ်တော်ရွေးကောက်ပွဲဥပဒေပုဒ်မ ၃၄(ဂ)နှင့် နည်းဥပဒေ ၁၆(က)တို့အရ **၁၃၇၃ ခုနှစ်၊ တန်ခူးလဆန်း ၁၀ရက် (၂၀၁၂ ခုနှစ်၊ ဧပြီလ ၁ရက်) တနင်္ဂနွေနေ့တွင်** လွှတ်တော်ကိုယ်စားလှယ်နေရာလစ်လပ်နေသည့် အောက်ပါမဲဆန္ဒနယ်များအတွက် ကြားဖြတ်ရွေးကောက်ပွဲများ ကျင်းပပြုလုပ်မည်ဖြစ်ကြောင်း သတ်မှတ်ကြေညာလိုက်သည်-

| စဉ် | လစ်လပ်ပြည်သူ့လွှတ်တော် မဲဆန္ဒနယ်များ | အကျုံးဝင်သော မြို့နယ်များ |
|---|---|---|
| ၁။ | ဖားကန့်မြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ဖားကန့် |
| ၂။ | မိုးကောင်းမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | မိုးကောင်း |
| ၃။ | ဗန်းမော်မြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ဗန်းမော် |
| ၄။ | စစ်ကိုင်းမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | စစ်ကိုင်း |
| ၅။ | ပုလဲမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ပုလဲ |
| ၆။ | မင်းကင်းမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | မင်းကင်း |
| ၇။ | ကျွန်းစုမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ကျွန်းစု |
| ၈။ | လောင်းလုံမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | လောင်းလုံ |
| ၉။ | တောင်ငူမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | တောင်ငူ |
| ၁၀။ | ထန်းတပင်မြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ထန်းတပင် |
| ၁၁။ | သနပ်ပင်မြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | သနပ်ပင် |
| ၁၂။ | လက်ပံတန်းမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | လက်ပံတန်း |
| ၁၃။ | မကွေးမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | မကွေး |
| ၁၄။ | ရေစကြိုမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ရေစကြို |
| ၁၅။ | မြိုင်မြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | မြိုင် |

| | | |
|---|---|---|
| ၁၆။ | ပခုက္ကူမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ပခုက္ကူ |
| ၁၇။ | ပွင့်ဖြူမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ပွင့်ဖြူ |
| ၁၈။ | ဇမ္ဗူသီရိမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ဇမ္ဗူသီရိ |
| ၁၉။ | ပုဗ္ဗသီရိမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ပုဗ္ဗသီရိ |
| ၂၀။ | ဒက္ခိဏသီရိမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ဒက္ခိဏသီရိ |
| ၂၁။ | ဥတ္တရသီရိမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ဥတ္တရသီရိ |
| ၂၂။ | ကျောက်ပန်းတောင်းမြို့နယ်ပြည်သူ့လွှတ်တော် မဲဆန္ဒနယ် | ကျောက်ပန်းတောင်း |
| ၂၃။ | နွားထိုးကြီးမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | နွားထိုးကြီး |
| ၂၄။ | မဟာအောင်မြေမြို့နယ်ပြည်သူ့လွှတ်တော် မဲဆန္ဒနယ် | မဟာအောင်မြေ |
| ၂၅။ | တံတားဦးမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | တံတားဦး |
| ၂၆။ | မိတ္ထီလာမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | မိတ္ထီလာ |
| ၂၇။ | ပြင်ဦးလွင်မြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ပြင်ဦးလွင် |
| ၂၈။ | မော်လမြိုင်မြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | မော်လမြိုင် |
| ၂၉။ | ကော့မှုးမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ကော့မှူး |
| ၃၀။ | သုံးခွမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | သုံးခွ |
| ၃၁။ | ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်ပြည်သူ့လွှတ်တော် မဲဆန္ဒနယ် | ဒဂုံမြို့သစ် (ဆိပ်ကမ်း) |
| ၃၂။ | မင်္ဂလာတောင်ညွန့်မြို့နယ်ပြည်သူ့လွှတ်တော် မဲဆန္ဒနယ် | မင်္ဂလာတောင်ညွန့် |
| ၃၃။ | လှည်းကူးမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | လှည်းကူး |
| ၃၄။ | မရမ်းကုန်းမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | မရမ်းကုန်း |
| ၃၅။ | ကလောမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ကလော |
| ၃၆။ | ပုသိမ်မြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ပုသိမ် |
| ၃၇။ | မအူပင်မြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | မအူပင် |
| ၃၈။ | မြောင်းမြမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | မြောင်းမြ |
| ၃၉။ | ဝါးခယ်မမြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | ဝါးခယ်မ |
| ၄၀။ | မြန်အောင်မြို့နယ်ပြည်သူ့လွှတ်တော်မဲဆန္ဒနယ် | မြန်အောင် |



| စဉ် | လစ်လပ်ပြည်သူ့လွှတ်တော် မဲဆန္ဒနယ်များ | အကျုံးဝင်သော မြို့နယ်များ |
|---|---|---|
| ၁။ | စစ်ကိုင်းတိုင်းဒေသကြီး၊ အမျိုးသားလွှတ်တော် မဲဆန္ဒနယ် အမှတ်(၃) | ကန့်ဘလူ၊ ကျွန်းလှ၊ ရေဦး၊ တန့်ဆည် |
| ၂။ | စစ်ကိုင်းတိုင်းဒေသကြီး၊ အမျိုးသားလွှတ်တော် မဲဆန္ဒနယ် အမှတ်(၇) | ဗန်းမောက်၊ ကောလင်း၊ ဝန်းသို၊ ပင်လည်ဘူး |
| ၃။ | ပဲခူးတိုင်းဒေသကြီး၊ အမျိုးသားလွှတ်တော် မဲဆန္ဒနယ် အမှတ်(၇) | အုတ်တွင်း၊ ထန်းတပင် |
| ၄။ | မကွေးတိုင်းဒေသကြီး၊ အမျိုးသားလွှတ်တော် မဲဆန္ဒနယ် အမှတ်(၄) | တောင်တွင်းကြီး |
| ၅။ | ရှမ်းပြည်နယ်၊ အမျိုးသားလွှတ်တော် မဲဆန္ဒနယ် အမှတ်(၃) | လားရှိုး၊ တန့်ယန်း မိုင်းရယ်၊ သိန္နီ၊ ကွမ်းလုံ |
| ၆။ | ဧရာဝတီတိုင်းဒေသကြီး၊ အမျိုးသားလွှတ်တော် မဲဆန္ဒနယ် အမှတ်(၁၀) | ဖျာပုံ၊ ဒေးဒရဲ |

| စဉ် | လစ်လပ်ပြည်သူ့လွှတ်တော် မဲဆန္ဒနယ်များ | အကျုံးဝင်သော မြို့နယ်များ |
|---|---|---|
| ၁။ | ကဝမြို့နယ် တိုင်းဒေသကြီးလွှတ်တော် မဲဆန္ဒနယ် အမှတ်(၂) | ကဝ |
| ၂။ | ရေကြည်မြို့နယ် တိုင်းဒေသကြီးလွှတ်တော် မဲဆန္ဒနယ် အမှတ်(၂) | ရေကြည် |

## ကျေးလက်ဒေသဖွံ့ဖြိုးရေး လုပ်ငန်းစဉ်(၅)ရပ်

၁။ ကျေးလက်ဒေသ လမ်းပန်းဆက်သွယ်မှုကောင်းမွန်ရေး။
၂။ ကျေးလက်ဒေသ သောက်သုံးရေဖူလုံစွာ ရရှိရေး။
၃။ ကျေးလက်နေပြည်သူများ၏ ပညာရေးအဆင့်အတန်းမြင့်မားရေး။
၄။ ကျေးလက်နေပြည်သူများ၏ ကျန်းမာရေးအဆင့်အတန်းမြင့်မားရေး။
၅။ ကျေးလက်ဒေသ စီးပွားဖွံ့ဖြိုးတိုးတက်ရေး။

**(၂၀၀၁ခုနှစ် စက်တင်ဘာလတွင် ကျင်းပသည့် ပြည်ထောင်စုကြံ့ခိုင်ရေးနှင့် ဖွံ့ဖြိုးရေးအသင်း နှစ်ပတ်လည် သင်းလုံးကျွတ် အစည်းအဝေးတွင် သတ်မှတ်ညွှန်ကြားပါသည်။)**

## ကျေးလက်ဒေသဖွံ့ဖြိုးရေးနှင့် ဆင်းရဲနွမ်းပါးမှုလျှော့ချရေး လုပ်ငန်းစဉ် (၈)ရပ်

၁။ လယ်ယာကုန်ထုတ်လုပ်မှု ဖွံ့ဖြိုးတိုးတက်ရေး
၂။ မွေးမြူရေးနှင့် သားငါးထုတ်လုပ်မှု ဖွံ့ဖြိုးတိုးတက်ရေး
၃။ ကျေးလက်ဒေသ အသေးစားကုန်ထုတ်လုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေး
၄။ အသေးစားပုဂ္ဂလိက ငွေစုငွေချေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေး
၅။ သမဝါယမလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေး
၆။ ကျေးလက်လူမှုစီးပွား ဖွံ့ဖြိုးတိုးတက်ရေး
၇။ ကျေးလက်စွမ်းအင် ဖွံ့ဖြိုးတိုးတက်ရေး
၈။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး

## ကျေးလက်လူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေး လုပ်ငန်းနယ်ပယ်(၆)ရပ်

၁။ ပညာရေး
၂။ ကျန်းမာရေး
၃။ လူ့စွမ်းအားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်ရေး
၄။ လမ်းပန်းဆက်သွယ်ရေး
၅။ ဆက်သွယ်ရေး
၆။ သန့်ရှင်းသော သောက်သုံးရေရရှိရေး



## ၂၀၁၁ ခုနှစ် မြန်မာ-တရုတ်ဆက်ဆံရေး

**မြန်မာနိုင်ငံမှ သွားရောက်လည်ပတ်မှု**

| စဉ် | ရက်စွဲ | သွားရောက်မှု |
|---|---|---|
| ၁။ | ၂၆-၅-၂၀၁၁ မှ ၂၈-၅-၂၀၁၁ ထိ | နိုင်ငံတော်သမ္မတ ဦးသိန်းစိန် ခေါင်းဆောင်သောချစ်ကြည်ရေးကိုယ်စားလှယ်အဖွဲ့။ |
| ၂။ | ၂၀-၁၀-၂၀၁၁ မှ ၂၇-၁၀-၂၀၁၁ ထိ | ဒုတိယသမ္မတ သီဟသူရ ဦးတင်အောင်မြင့်ဦး၏ (၈)ကြိမ်မြောက် တရုတ် အာဆီယံကုန်စည်ပြပွဲနှင့် စီးပွားရေးနှင့် ရင်းနှီးမြှုပ်နှံမှု ထိပ်သီးအစည်းအဝေး တက်ရောက်မှု။ |
| ၃။ | ၂၇-၁၁-၂၀၁၁ မှ ၂-၁၂-၂၀၁၁ ထိ | တပ်မတော် ကာကွယ်ရေးဦးစီးချုပ် ဗိုလ်ချုပ်ကြီး မင်းအောင်လှိုင်ခေါင်းဆောင်သော ကိုယ်စားလှယ်အဖွဲ့၏ ချစ်ကြည်ရေးခရီးစဉ်။ |

**တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ လာရောက်လည်ပတ်မှု**

| စဉ် | ရက်စွဲ | သွားရောက်မှု |
|---|---|---|
| ၁။ | ၂-၄-၂၀၁၁ မှ ၅-၄-၂၀၁၁ ထိ | တရုတ်ပြည်သူ့သမ္မတနိုင်ငံ ကွန်မြူနစ်ပါတီ ဗဟိုကော်မတီ၊ နိုင်ငံရေးဗျူရို၏အမြဲတမ်းကော်မတီဝင်နှင့် တရုတ်ပြည်သူ့နိုင်ငံရေး အတိုင်ပင်ခံ ကွန်ဖရင့်၏ (၁၁)ကြိမ်မြောက်အမျိုးသားကော်မတီ ဥက္ကဋ္ဌ မစ္စတာ ကျာချင့်လင်ခေါင်းဆောင်သော ချစ်ကြည်ရေး ကိုယ်စားလှယ်အဖွဲ့။ |
| ၂။ | ၁၂-၅-၂၀၁၁ | တရုတ်ပြည်သူ့သမ္မတနိုင်ငံ ဗဟိုစစ်ကော်မရှင် ဒုတိယ ဥက္ကဋ္ဌ General Xu Caihou ခေါင်းဆောင်သော ချစ်ကြည်ရေးကိုယ်စားလှယ်အဖွဲ့။ |
| ၃။ | ၁၉-၉-၂၀၁၁ | တရုတ်ပြည်သူ့သမ္မတနိုင်ငံ စက်မှုနှင့် ကုန်သွယ်ရေး ဘဏ် ICBC ဥက္ကဋ္ဌ ဦးဆောင်သော ကိုယ်စားလှယ် အဖွဲ့။ |

၄။ ၁၁-၁၁-၂၀၁၁ တရုတ်ကူမြူနစ်ပါတီ ဗဟိုကော်မတီနှင့် ပေါ်လစ်ဗျူရို အဖွဲ့ဝင် ပေကျင်းမြူနီစပယ်ကော်မတီအတွင်းရေးမှူး Mr.Liu Qi ဦးဆောင်သောကိုယ်စားလှယ်အဖွဲ့။

၅။ ၁၉-၁၂-၂၀၁၁ မှ ၂၀-၁၂-၂၀၁၁ ထိ တရုတ်ပြည်သူ့သမ္မတနိုင်ငံ နိုင်ငံတော် ကောင်စီဝင်၏ မစ္စတာ တိုက်ပင်းကော် ဦးဆောင်သော ကိုယ်စားလှယ်အဖွဲ့။

## ၂၀၁၁ ခုနှစ် မြန်မာ-အမေရိကန်ဆက်ဆံရေး

**မြန်မာနိုင်ငံမှ သွားရောက်လည်ပတ်မှု**

| စဉ် | ရက်စွဲ | သွားရောက်မှု |
|---|---|---|
| ၁။ | ၂၆-၉-၂၀၁၁ မှ ၂၉-၉-၂၀၁၁ ထိ | နိုင်ငံခြားရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးဝဏ္ဏမောင်လွင် အမေရိကန်ပြည်ထောင်စု ကုလသမဂ္ဂ အထွေထွေဌာနချုပ်တွင် ကျင်းပသော (၆၆) ကြိမ်မြောက် ကုလသမဂ္ဂ အထွေထွေညီလာခံသို့ တက်ရောက်ခြင်း။ |

**အမေရိကန်နိုင်ငံမှ လာရောက်လည်ပတ်မှု**

| စဉ် | ရက်စွဲ | လာရောက်မှု |
|---|---|---|
| ၁။ | ၁၈-၅-၂၀၁၁ | အမေရိကန်ပြည်ထောင်စု နိုင်ငံခြားရေးဝန်ကြီးဌာန၊ ဒုတိယလက်ထောက်နိုင်ငံခြားရေးဝန်ကြီး Mr. Joseph Yuosang Yan ဦးဆောင်သော ကိုယ်စားလှယ်အဖွဲ့။ |
| ၂။ | ၁-၆-၂၀၁၁ | အမေရိကန်ပြည်ထောင်စု အထက်လွှတ်တော်အမတ် ဂျွန်မက်ကိန်း လာရောက်ခြင်း။ |
| ၃။ | ၉-၉-၂၀၁၁ | အမေရိကန်အစိုးရ၏ မြန်မာနိုင်ငံဆိုင်ရာ အထူးကိုယ်စားလှယ်နှင့် မူဝါဒရေးရာ ညှိနှိုင်းရေးမှူး Mr. Derek Mitchell ခေါင်းဆောင်သောကိုယ်စားလှယ်အဖွဲ့။ |
| ၄။ | ၂-၁၁-၂၀၁၁ | အမေရိကန်အစိုးရ၏ မြန်မာနိုင်ငံဆိုင်ရာ အထူးကိုယ်စားလှယ်နှင့်မူဝါဒရေးရာညှိနှိုင်းရေးမှူး Mr. Dereak Mitchell ဦးဆောင်သောကိုယ်စားလှယ်အဖွဲ့။ |
| ၅။ | ၃၀-၁၁-၂၀၁၁ | အမေရိကန် နိုင်ငံခြားရေးဝန်ကြီး မစ္စဟီလာရီ ကလင်တန် လာရောက်ခြင်း။ |
| ၆။ | ၉-၁-၂၀၁၂ | အမေရိကန်အစိုးရ၏ မြန်မာနိုင်ငံဆိုင်ရာ အထူးကိုယ်စားလှယ်နှင့် မူဝါဒရေးရာ ညှိနှိုင်းရေးမှူးသံအမတ်ကြီး Mr. Derek Mitchell ဦးဆောင်သောကိုယ်စားလှယ်အဖွဲ့။ |
| ၇။ | ၁၂-၁-၂၀၁၂ | အမေရိကန်အောက်လွှတ်တော်အမတ် Mr. Joseph F.Crowley ခေါင်းဆောင်သော ကိုယ်စားလှယ်အဖွဲ့။ |
| ၈။ | ၁၇-၁-၂၀၁၂ | အမေရိကန်အထက်လွှတ်တော်အမတ် Mr. Addison Mitchell Mc Connell ဦးဆောင်သောကိုယ်စားလှယ်အဖွဲ့။ |
| ၉။ | ၂၀-၁-၂၀၁၂ | The Washington Post မှ အကြီးအတန်းအယ်ဒီတာ Ms. Eizabeth Graham Weymouth နှင့်အဖွဲ့။ |
| ၁၀။ | ၂၂-၁-၂၀၁၂ | အမေရိကန်အထက်လွှတ်တော်အမတ် Mr. John Sidney Mc Cain ဦးဆောင်သောကိုယ်စားလှယ်အဖွဲ့။ |

## မြန်မာနိုင်ငံအစိုးရအဆက်ဆက်တွင် လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့သည့် ဖြစ်စဉ်များ

၁။ ၁၉၅၆ခုနှစ်၊ မေလ ဆဋ္ဌမ သင်္ဂါယနာတင်ပွဲနှင့် သာသနာနှစ် ၂၅၀၀ပြည့်အဖြစ် ဝန်ကြီးချုပ် ဦးနုက အထူးလျှော့ရက်များ ထုတ်ပြန်၍ အကျဉ်းသားများကို လွတ်ငြိမ်းခွင့်ပေးခဲ့။

၂။ ၁၉၆၃ခုနှစ်၊ ဧပြီလ ၃ရက်နေ့တွင် အထွေထွေ လွတ်ငြိမ်းချမ်းသာခွင့် ထုတ်ပြန်ကြေညာခဲ့သည်။ အဆိုပါ အမိန့်အရ မြန်မာတစ်နိုင်ငံလုံးရှိ အကျဉ်းထောင်များမှ အကျဉ်းသား ၁၂၀၀၀ခန့် လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့။ ပုဒ်မ (၅)ဖြင့် ဖမ်းဆီးထားသူ နိုင်ငံရေးသမား ၂၃ဦး၊ သတင်းစာဆရာ ငါးဦး၊ ကျောင်းသား ၁၃ ဦး၊ ကေအင်ဒီအို ငါးဦးနှင့် တရားစွဲဆိုခြင်း ခံနေရသူ လေးဦးကို လွှတ်ပေးခဲ့။ လွတ်လာသူများတွင် သခင်စိုး၏ ဇနီးဟောင်း ဒေါ်နှင်းမေ၊ ဗမာပြည်ကွန်မြူနစ်ပါတီ ဗဟိုကော်မတီဝင် မစ္စတာရာဂျန်၊ ကရင်နီ အမျိုးသားတိုးတက်ရေးပါတီ ဉက္ကဋ္ဌ မိုးကျော်(ခ) ကျော်နိုင် စသူတို့ပါဝင်။

၃။ ၁၉၇၁ခုနှစ်၊ ဇွန်လ ၂၇ရက် မြန်မာ့ဆိုရှယ်လစ် လမ်းစဉ်ပါတီ၏ ပထမအကြိမ် ညီလာခံ အထိမ်းအမှတ်အဖြစ် ရာဇဝတ်ပြစ်ဒဏ်များကို လျှော့ပေါ့ခြင်းဆိုင်ရာ ကြေညာချက်ကို ထုတ်ပြန်ခဲ့။

၄။ ၁၉၈၀ပြည့်နှစ် မေလ ၂၈ရက်နေ့ ရက်စွဲဖြင့် လွတ်ငြိမ်းချမ်းသာခွင့် အမိန့် ထုတ်ပြန်ခဲ့။ တစ်နိုင်ငံလုံး အကျဉ်းထောင် အသီးသီးနှင့် ရဲဘက်စခန်းမှ အကျဉ်းသား ၃၉၄၄ ဦးတို့ကို လွှတ်ပေးခဲ့။

၅။ ၁၉၈၈ခုနှစ်တွင် မြန်မာတစ်နိုင်ငံလုံး၌ လူထုအုံကြွမှု ဖြစ်ပွားခဲ့သောကြောင့် အကျဉ်းထောင်များမှ အကျဉ်းသားများကို ထောင်ဖွင့်လွှတ်ပေးခဲ့။ ယင်းကာလ နောက်ပိုင်းတွင် ၁၉၈၈ခုနှစ် ပြစ်မှုဆိုင်ရာ အမှုများပိတ်သိမ်းခြင်း ပြစ်ဒဏ်ကျခံနေရသူများအား ပြစ်ဒဏ်ပြောင်းလဲ လျှော့ပေါ့ခြင်းနှင့် ကြားနာစစ်ဆေးဆဲ ပြစ်မှုဆိုင်ရာ အမှုများပိတ်သိမ်းခြင်း စသည်တို့ကိုထုတ်ပြန်၍ ကန့်သတ်လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့။

၆။ ၂၁-၇-၁၉၈၉ ရက်နေ့တွင် နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့က အမိန့်အမှတ်(၄/၈၉)ဖြင့် အကျဉ်းသား ၂၈၄၅၃ ဦးအား လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့။



၇။ ၁၉၉၂ခုနှစ်၊ ဧပြီလ ၂၄ရက်နေ့တွင် ကြေညာချက်အမှတ်၁၁/၉၂ကို ထုတ်ပြန်၍ ပြစ်ဒဏ်ကျခံရေးရာများအနက် နိုင်ငံတော် လုံခြုံရေးကို ထိခိုက်မှုမရှိသော နိုင်ငံသား အကျဉ်းသား ၂၂၆၄ ဦးနှင့် နိုင်ငံခြားသား အကျဉ်းသား ၁၄၇ ဦးကို ပြန်လွှတ်ပေး။

၈။ ၁၉၉၃ခုနှစ်၊ ဇန်နဝါရီလ ၁ရက်နေ့တွင် နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့ အမိန့်အမှတ်၁/၉၃ဖြင့် ပြစ်ဒဏ်များ ပြောင်းလဲလျှော့ပေါ့ခြင်းဆိုင်ရာ အမိန့်ကို ထုတ်ပြန်၍ ကန့်သတ် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့။ ထိုလွတ်ငြိမ်းချမ်းသာခွင့်ကြောင့် အကျဉ်းသား ၁၇၀၈ ဦး လွတ်ငြိမ်းချမ်းသာခွင့်ရရှိခဲ့သည်။

၉။ ၁၉၉၅ခုနှစ်၊ မတ်လ ၂၅ရက်နေ့တွင် ပထရ၏ စာအမှတ်၁၀၀/၁-ရဖ (၃၁)ပထရ (တပ်မတော် ရွှေရတုအထိမ်းအမှတ်)ဖြင့် အကျဉ်းသား ၂၃၉၀၁ ဦးအား လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည်။

၁၀။ ၁၉၉၇ခုနှစ်၊ ဇန်နဝါရီလ ၁၂ရက်နေ့တွင် နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ အမိန့်အမှတ်(၁/၉၇)ဖြင့် အကျဉ်းသား ၄၃၆၇ ဦးအား လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည်။

၁၁။ ၂၀၀၄ခုနှစ်၊ နိုဝင်ဘာလ ၁၈ရက်နေ့တွင် နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ စာအမှတ်၊ ၀၆/နရက(ဥ/မည)ဖြင့် ပြစ်ဒဏ်ကျခံနေရသော နိုင်ငံရေးအကျဉ်းသား ၃၉၃၇ ဦးတို့အား ဖျက်သိမ်းခဲ့သော အမျိုးသားထောက်လှမ်းရေးအဖွဲ့၏ ဆောင်ရွက်ခဲ့မှုများအနက် မလျော်ကန်သော ဆောင်ရွက်မှုများ ပါဝင်နိုင်သည်ဟု ပြန်လည်သုံးသပ်ပြီး လွတ်ငြိမ်းချမ်းသာခွင့် ပေးခဲ့သည်။

၁၂။ ၂၀၀၄ခုနှစ်၊ နိုဝင်ဘာလ ၂၅ရက်နေ့တွင် နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ စာအမှတ်၊ ၀၄/နရက(ဥ/မည)ဖြင့်ပြစ်ဒဏ်ကျခံနေရသော အကျဉ်းသား ၅၃၁၁ ဦးတို့အား ဖျက်သိမ်းခဲ့သောအမျိုးသားထောက်လှမ်းရေးအဖွဲ့၏ ဆောင်ရွက်မှုခဲ့များအနက် မလျော်ကန်သော ဆောင်ရွက်မှုများ ပါဝင်နိုင်သည်ဟု ပြန်လည်သုံးသပ်ပြီး ဒုတိယအကြိမ် လွတ်ငြိမ်းချမ်းသာခွင့်ပေးအပ်ခဲ့သည်။

၁၃။ ၂၀၀၄ခုနှစ်၊ ဒီဇင်ဘာလ ၁၀ရက်နေ့တွင် နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ စာအမှတ်၊ ၀၄/နရက(ဥ/မည)ဖြင့် အကျဉ်းသား

၅၀၇၀ ဦးတို့အား ဖျက်သိမ်းခဲ့သော အမျိုးသားထောက်လှမ်းရေးအဖွဲ့၏ ဆောင်ရွက်ခဲ့မှုများအနက် မလျော်ကန်သော ဆောင်ရွက်မှုများ ပါဝင်နိုင်သည်ဟု ပြန်လည်သုံးသပ်ပြီး တတိယအကြိမ် လွတ်ငြိမ်းချမ်းသာခွင့် ပေးအပ်ခဲ့သည်။

၁၄။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ၃၁-၁၂-၂၀၀၄ ရက်စွဲပါစာအမှတ် ၊ ၀၄/နရက (ဥ/မည) ဖြင့်(၅၇)နှစ်မြောက် လွတ်လပ်ရေးနေ့ အထိမ်းအမှတ်အဖြစ် အကျဉ်းသား ၅၅၈၈ ဦးအား အကျင့်စာရိတ္တကောင်းမွန်လာသော အကျဉ်းသားများအား ငဲ့ညှာသောအားဖြင့်လည်းကောင်း၊ ယင်းတို့၏ မိသားစုများအား ငဲ့ညှာသောအားဖြင့်လည်းကောင်း၊ ၄င်းတို့သည် နိုင်ငံတော်၏ မေတ္တာ၊ စေတနာကို နားလည်ပြီး မိမိအကျိုး၊ ဒေသအကျိုးနှင့် နိုင်ငံ့အကျိုးကို ဆက်လက်သယ်ပိုးရွက်ဆောင်သွားကြလိမ့်မည်ဟု မျှော်လင့်သဖြင့်လည်းကောင်း၊ သက်ဆိုင်ရာ အကျဉ်းစခန်းအသီးသီးမှ ၂၀၀၅ခုနှစ်၊ ဇန်နဝါရီလ ၃ရက်နေ့မှစ၍ လွှတ်ပေးလိုက်ခြင်းဖြစ်သည်။ ထိုသို့လွှတ်ပေးခြင်းမှာ ပြည်ထောင်စုမပြိုကွဲရေးနှင့် တိုင်းရင်းသားစည်းလုံးညီညွတ်မှုမပြိုကွဲရေးနှင့် အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေးတည်းဟူသော ဒို့တာဝန်အရေးသုံးပါးကို ဦးထိပ်ထားခြင်းဖြစ်ကြောင်းသိရသည်။

၁၅။ ၂၀၀၅ခုနှစ်၊ ဇူလိုင်လ ၃ရက်နေ့တွင် နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ စာအမှတ်၊၀၄/နရက(ဥ/မည)ဖြင့် အကျဉ်းသား ၄၁၀ဦးအား လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည်။

၁၆။ ၂၀၀၆ခုနှစ်၊ ဒီဇင်ဘာလ ၃၀ရက်နေ့ နံနက် ၁၁နာရီ ၃၅မိနစ်တွင် မူဆယ်မြို့နယ်၊ ကြယ်ဂေါင်နယ်စပ်ဂိတ်၌ တရုတ်နိုင်ငံသား အကျဉ်းသား၃၀ဦးနှင့် အကျဉ်းသူ တစ်ဦးအား တရုတ်ပြည်သူ့သမ္မတနိုင်ငံ၏ မေတ္တာရပ်ခံချက်အရ လွှဲပြောင်းပေးအပ်ခဲ့သည်။ နှစ်နိုင်ငံ ချစ်ကြည်ရေးကို ရှေးရှု၍ ၂၀၀၆ ခုနှစ်၊ မေလ ၂၇ ရက်နေ့တွင် တရုတ်နိုင်ငံသား အကျဉ်းသား၊ အကျဉ်းသူ ၈၆ ဦးကိုလည်းကောင်း၊ ဇွန် ၇ရက်နေ့တွင် ၉၆ဦးအားလည်းကောင်း၊ ဇွန် ၁၇ရက်တွင် ၄၂၇ ဦးအားလည်းကောင်း၊ ဩဂုတ် ၁၆ရက်နေ့တွင် ၆၉ ဦးအားလည်းကောင်း၊ စုစုပေါင်း တရုတ်နိုင်ငံသား အကျဉ်းသား၊ အကျဉ်းသူ ၆၇၈ ဦးတို့ကို လွှဲပြောင်းပေးအပ်ခဲ့သည်။



၁၇။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ၂-၁-၂၀၀၇ ရက်စွဲပါစာအမှတ်၊ ၀၄/နရက(ဥ/မည)ဖြင့် ၂၀၀၇ခုနှစ်၊ ဇန်နဝါရီလ ၄ရက်နေ့တွင် ကျရောက်သည့် (၅၉)နှစ်မြောက် လွတ်လပ်ရေးနေ့ အထိမ်းအမှတ်အဖြစ် အကျဉ်းသား၂၈၃၁ဦးအား နိုင်ငံတော်တည်ဆောက်ရေးတွင် တစ်ဖက်တစ်လမ်းမှ ပါဝင်လာစေရန်အတွက်လည်းကောင်း၊ ၅၉ နှစ်မြောက်လွတ်လပ်ရေးနေ့ အထိမ်းအမှတ်အဖြစ်လည်းကောင်း၊ ဇန်နဝါရီလ ၃ ရက်နေ့တွင် ပြစ်ဒဏ်မှ လွတ်ငြိမ်းချမ်းသာခွင့်ပေးလိုက်သည်။

၁၈။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ၁၅-၁၁-၂၀၀၇ ရက်စွဲပါစာအမှတ်၊ ၀၆/နရက(ဥ/မည)ဖြင့် ၂၀၀၇ခုနှစ်၊ နိုဝင်ဘာလ ၁၆ရက်မှ ဒီဇင်ဘာလ ၃ရက်အတွင်း အကျဉ်းသား ၈၅၈၅ ဦးအား ၂၀၀၇ ခုနှစ် စက်တင်ဘာလတွင် အမျိုးသားညီလာခံကြီးကို အောင်မြင်စွာ ကျင်းပပြီးစီးနိုင်ခဲ့ခြင်းကိုလည်းကောင်း၊ နိုင်ငံတော်ရှေ့ဆက်သွားမည့် မူဝါဒလမ်းစဉ်(၇)ရပ်အနက် တတိယအဆင့်ဖြစ်သည့် နိုင်ငံတော်ဖွဲ့စည်းပုံ အခြေခံဥပဒေမူကြမ်း ရေးဆွဲရေးကော်မရှင်ကို ဖွဲ့စည်းခဲ့ပြီးလုပ်ငန်းများ စတင်ဆောင်ရွက်နိုင်သည့် အထိမ်းအမှတ်အဖြစ်လည်းကောင်း၊ ပြည်တွင်း အမျိုးသားစည်းလုံးညီညွတ်ရေးနှင့် ကမ္ဘာ့ကုလသမဂ္ဂအသင်းကြီး အပါအဝင် နိုင်ငံတကာနှင့် ချစ်ကြည်ရင်းနှီးစွာ ပူးပေါင်းလက်တွဲ ဆောင်ရွက်မှု အထိမ်းအမှတ်အဖြစ်လည်းကောင်း ရည်ရွယ်ရှေးရှုပြီး လွတ်ငြိမ်းချမ်းသာခွင့်ပေးလိုက်ခြင်းဖြစ်သည်။ ဖော်ပြပါ အကျဉ်းသားများထဲ၌ နိုဝင်ဘာ ၃၀ရက်နေ့တွင် ထိုင်းနိုင်ငံသား အကျဉ်းသား ၃၃ဦးလည်း ပါဝင်သည်။

၁၉။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ၂၃-၉-၂၀၀၈ ရက်စွဲပါစာအမှတ်၊၁၁/နရက(ဥ/မည)ဖြင့် အကျဉ်းသား ၉၀၀၂ဦးအား လူမှုရေးအရ စာနာထောက်ထားခြင်းအားဖြင့် လည်းကောင်း၊ ယင်းတို့၏ မိသားစုများအား ငဲ့ညှာသောအားဖြင့်လည်းကောင်း၊ ၄င်းတို့သည် နိုင်ငံတော်၏ မေတ္တာ၊ စေတနာကို နားလည်ကြပြီး မိမိအကျိုး၊ ဒေသအကျိုးနှင့်၂၀၁၀ပြည့်နှစ်အတွင်း ကျင်းပမည့် တရားမျှတသော ရွေးကောက်ပွဲများတွင်လည်း အများပြည်သူတို့နှင့်အတူတူ နိုင်ငံတော်အကျိုးကို ထမ်းရွက်သွားနိုင်ကြစေရန်အတွက်လည်းကောင်း ပြစ်ဒဏ်ကျခံခြင်း ရပ်စဲ၍ လွတ်ငြိမ်းချမ်းသာခွင့်များ ပေးအပ်ခဲ့သည်။

၂၀။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ၂၀-၂-၂၀၀၉ ရက်စွဲပါစာအမှတ်၊ ၀၆/နရက(ဥ/မည)ဖြင့် ၂၀၀၉ခုနှစ်၊ ဖေဖော်ဝါရီ ၂၁ရက်နေ့တွင် နိုင်ငံသားအကျဉ်းသား၊ အကျဉ်းသူ၆၃၁၃ဦးတို့အား လူသားချင်း စာနာထောက်ထားမှုနှင့် သနားချစ်ခင်မှုတို့ကို အလေးထားသည့်အနေဖြင့်လည်းကောင်း၊ ယင်းတို့၏ မိသားစုများအားငဲ့ညှာသော အနေဖြင့်လည်းကောင်း၊ ယင်းတို့သည် နိုင်ငံတော်၏ မေတ္တာနှင့်စေတနာကို နားလည်ကြပြီး မိမိအကျိုး၊ ဒေသအကျိုးနှင့်၂၀၁၀ပြည့်နှစ်အတွင်း ကျင်းပမည့် တရားမျှတသော ရွေးကောက်ပွဲများတွင်လည်း အများပြည်သူတို့နှင့်အတူ နိုင်ငံတော်အကျိုးကို ထမ်းရွက်သွားနိုင်ကြစေရန်အတွက်လည်းကောင်း ပြစ်ဒဏ်ကျခံခြင်းမှ ရပ်စဲ၍ လွတ်ငြိမ်းချမ်းသာခွင့်များ ပေးအပ်ခဲ့သည်။

၂၁။ ၂၀၀၉ခုနှစ်၊ စက်တင်ဘာလ ၁၇ရက်နေ့တွင် နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီသည် ပြစ်မှုဆိုင်ရာ ကျင့်ထုံးဥပဒေပုဒ်မ ၄၀၁၊ ပုဒ်မခွဲ(၁)အရ အကျဉ်းသား (၇၁၁၄)ဦးတို့အား လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည်။



## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရသစ်လက်ထက်တွင် လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့သော ဖြစ်စဉ်များ

**ပထမအကြိမ်(၁၆-၅-၂၀၁၁ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့် ပြုခဲ့သည့် အကျဉ်းသား ၁၄၇၅၈ ဦး)**

၁၆-၅-၂၀၁၁ရက်နေ့တွင် နိုင်ငံတော်သမ္မတရုံး၏ အမိန့်အမှတ် (၂၈/၂၀၁၁) ဖြင့် ၂၀၁၁ခုနှစ်၊ မေလ ၁၇ရက် မတိုင်မီ ကျူးလွန်ခဲ့သော ပြစ်မှုတစ်ခုခုနှင့် စပ်လျဉ်း၍ ပြစ်ဒဏ်ချမှတ်ခြင်း ခံရပြီးပါက ယင်းကဲ့သို့ ကျခံနေရသော ပြစ်ဒဏ်အသီးသီးကို အောက်ပါအတိုင်း လွတ်ငြိမ်းချမ်းသာခွင့် ပြုလိုက်သည်-

(က) သေဒဏ်ချမှတ်စေခြင်းခံရသူများအတွက် ထောင်ဒဏ်တစ်သက်သို့လည်းကောင်း၊

(ခ) ထောင်ဒဏ်ကျခံနေရသူများသည် ယင်းတို့အပေါ် သတ်မှတ်ထားသော ထောင်ဒဏ်ကို သာမန်ရရှိပြီးသော လျှော့ပေါ့ရက်များအပြင်(၁)နှစ် (တစ်နှစ်)ထပ်မံ လျှော့ပေါ့ ရရှိစေရန်လည်းကောင်း၊

**ဒုတိယအကြိမ် (၁၁-၁၀-၂၀၁၁ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား ၆၃၅၉ ဦး)**

၁၁-၁၀-၂၀၁၁ ရက်နေ့တွင် နိုင်ငံတော်သမ္မတရုံး၏ အမိန့်အမှတ်(၄၉/၂၀၁၁) ဖြင့် ထိုက်သင့်သော ပြစ်ဒဏ်များကို ကျခံပြီးဖြစ်သည့် စည်းကမ်းနှင့် အကျင့်စာရိတ္တကောင်းမွန်လာသော အကျဉ်းသားများအား လူသားချင်း စာနာထောက်ထားမှုနှင့် သနားချစ်ခင်မှုတို့ကို အလေးထားသည့်အနေဖြင့်လည်းကောင်း၊ ယင်းတို့၏ မိသားစုများအား ငဲ့ညှာသောအနေဖြင့်လည်းကောင်း၊ ယင်းတို့သည် နိုင်ငံတော်၏ မေတ္တာနှင့် စေတနာကို နားလည်ကြပြီး မိမိအကျိုး၊ ဒေသအကျိုး၊ နိုင်ငံအကျိုးအတွက် အများပြည်သူနှင့်အတူ တာဝန်ထမ်းဆောင်သွားနိုင်စေရန်အတွက် လည်းကောင်း ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ ၁၂ရက်နေ့မှစ၍ လွတ်ငြိမ်းချမ်းသာ ခွင့်ပြုခဲ့သည့် အကျဉ်းသား ၆၃၅၉ဦး ဖြစ်သည်။

၅-၁၂-၂၀၁၁ရက်နေ့တွင် ကျရောက်မည့် ထိုင်းနိုင်ငံဘုရင်မင်းမြတ်၏ (၈၄) နှစ်မြောက် ရက်မြတ်မွေးနေ့ မင်္ဂလာ ကျရောက်မည်ဖြစ်သောကြောင့်လည်းကောင်း၊ နှစ်နိုင်ငံချစ်ကြည်ရေးနှင့် မိတ်ဝတ်မပြတ် ဆက်ဆံရေးတို့ကို ရှေးရှုသောအားဖြင့်

လည်းကောင်း၊ လူမှုရေးအရ ငဲ့ညှာသောအားဖြင့်လည်းကောင်း ၂-၁၂-၂၀၁၁ ရက်နေ့တွင် မြန်မာနိုင်ငံ အကျဉ်းထောင်အသီးသီး၌ ပြစ်ဒဏ်ကျခံလျက်ရှိသော ထိုင်းနိုင်ငံသား အကျဉ်းသား(၈)ဦးအား ပြစ်ဒဏ်မှ လျှော့ပေါ့ပြီး လွတ်ငြိမ်းချမ်းသာခွင့်ပေးကာ ပြည်နှင်ဒဏ်ပေးခဲ့သည်။

**တတိယအကြိမ် (၂-၁-၂၀၁၂ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား ၆၆၅၆ ဦး)**

၂-၁-၂၀၁၂ ရက်နေ့တွင် နိုင်ငံတော်သမ္မတရုံး၏ အမိန့်အမှတ်(၁/၂၀၁၂)ဖြင့် လွတ်လပ်ရေးနေ့အား ဂုဏ်ပြုသောအားဖြင့် ၂၀၁၂ခုနှစ်၊ ဇန်နဝါရီလ ၂ရက်နေ့ မတိုင်မီ ကျူးလွန်ခဲ့သော ပြစ်မှုတစ်ခုခုနှင့် စပ်လျဉ်း၍ ပြစ်ဒဏ်ချမှတ်ခြင်းခံရပြီး ပါက ယင်းတို့ကို ကျခံနေရသော ပြစ်ဒဏ်အသီးသီးကို အောက်ပါအတိုင်း လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည်-

(က) သေဒဏ်ချမှတ်စေခြင်း ခံရသူများအတွက် ထောင်ဒဏ် တစ်သက် (နှစ်အကန့်အသတ်မရှိ)သို့ ပြောင်းလဲကျခံစေရန်လည်းကောင်း၊

(ခ) ထောင်ဒဏ် နှစ်(၃၀)အထက် (နှစ်အကန့်အသတ်မရှိနှင့် ထောင်ဒဏ်တစ်သက်ကျခံနေရသည့် အကျဉ်းသားများမပါ)အား ထောင်ဒဏ် (၃၀) နှစ်သို့ လျှော့ပေါ့ ကျခံစေရန်လည်းကောင်း၊

(ဂ) ထောင်ဒဏ်နှစ်(၂၀)အထက်မှ ထောင်ဒဏ် နှစ်(၃၀)အထိ ကျခံနေရသည့် အကျဉ်းသားများအား ထောင်ဒဏ် နှစ်(၂၀)သို့ လျှော့ပေါ့ကျခံစေရန်လည်းကောင်း၊

(ဃ) ထောင်ဒဏ် နှစ်(၂၀)အောက် ကျခံနေရသည့် အကျဉ်းသားများအား ယင်းတို့ကျခံနေသော ထောင်ဒဏ်၏ လေးပုံတစ်ပုံအား လျှော့ပေါ့ ကျခံစေရန်လည်းကောင်း၊



**စတုတ္ထအကြိမ် (၁၂-၁-၂၀၁၂ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့် ပြုခဲ့သည့် အကျဉ်းသား ၆၅၁ ဦး)**

၁၂-၁-၂၀၁၂ ရက်နေ့တွင် ပြစ်မှုဆိုင်ရာ ကျင့်ထုံးဥပဒေပုဒ်မ ၄၀၁၊ ပုဒ်မခွဲ(၁) အရ နိုင်ငံတော်သမ္မတသည် နိုင်ငံတော်တည်ငြိမ်ရေးနှင့် ထာဝရငြိမ်းချမ်းမှု ဖော်ဆောင်ရေးအတွက်လည်းကောင်း၊ အမျိုးသားပြန်လည် စည်းလုံးညီညွတ်ရေး အတွက်လည်းကောင်း၊ နိုင်ငံရေးလုပ်ငန်းစဉ်များတွင် အားလုံးပါဝင်နိုင်ခွင့် ရရှိရေး အတွက်လည်းကောင်း၊ လူသားချင်း စာနာထောက်ထားမှုကို အလေးပေးသောအား ဖြင့်လည်းကောင်း၊ နိုင်ငံတော်၏ မေတ္တာနှင့် စေတနာကို နားလည်ကြပြီး နိုင်ငံတော်သစ် တည်ဆောက်ရေးတွင် တစ်ဖက်တစ်လမ်းမှ အထောက်အပံ့ဖြစ်စေသည့် နိုင်ငံသား များအဖြစ်သို့ ပြုပြင်ပြောင်းလဲနိုင်စေရေးအတွက်လည်းကောင်း ရည်ရွယ်၍ အကျဉ်း ထောင်အသီးသီးမှ ပြစ်ဒဏ်ကျခံလျက်ရှိသော အကျဉ်းသား၊ အကျဉ်းသူ(၆၅၁)ဦး အား ၂၀၁၂ခုနှစ်၊ ဇန်နဝါရီ ၁၃ ရက်နေ့မှစ၍ လွတ်ငြိမ်းချမ်းသာခွင့်ပြုလိုက်သည်။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရသစ်လက်ထက် ငြိမ်းချမ်းရေးဆွေးနွေးမှု အခြေအနေများ

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၁၈-၈-၂၀၁၁ | **ငြိမ်းချမ်းရေးဆွေးနွေးရန်ဖိတ်ခေါ်ခြင်း**<br>၁။ နိုင်ငံတော်အစိုးရသည် ဒို့တာဝန်အရေး (၃)ပါးကို ထိန်းသိမ်းပြီး အေးချမ်းသာယာ၍ ဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်ကို တည်ဆောက်ရန်အတွက် နိုင်ငံတော်အတွင်းရှိ လက်နက်ကိုင် ပဋိပက္ခများ ချုပ်ငြိမ်းပြီး ပြည်တွင်းငြိမ်းချမ်းရေးကို တည်ဆောက်ကာ နေရာဒေသအနှံ့ ဖွံ့ဖြိုးတိုးတက်ရေး၊ ငြိမ်းချမ်းရေး ဆွေးနွေးရန် ဖိတ်ခေါ်ခြင်း လုပ်ငန်းများကို နိုင်ငံတော်နှင့် ပြည်သူတစ်ရပ်လုံး ပူးပေါင်းတည်ဆောက်သွားရန် အထူးပင်လိုအပ်သည်ဟု ယုံကြည်ပါသည်။<br>၂။ လက်နက်ကိုင် ပဋိပက္ခများ ဖြေရှင်းပြီး ငြိမ်းချမ်းရေးဖော်ဆောင်လိုသော တိုင်းရင်းသား လက်နက်ကိုင်အဖွဲ့အစည်းများသည် မိမိတို့ တစ်ဖွဲ့ချင်းအလိုက် ပထမအဆင့် အနေဖြင့်ပဏာမ ဆောင်ရွက်ရန် လိုအပ်သောလုပ်ငန်းစဉ်များကို ဆောင်ရွက်နိုင်ရန်အတွက် သက်ဆိုင်ရာပြည်နယ်နှင့် တိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ဆက်သွယ်ဆောင်ရွက်နိုင်ပါသည်။<br>၃။ ပဏာမ ဆောင်ရွက်ဖွယ်ရာများ ဆောင်ရွက်ပြီးပါက နိုင်ငံတော်အစိုးရဘက်မှ ဆွေးနွေးမည့် အဖွဲ့အစည်းဖွဲ့စည်းပြီး သက်ဆိုင်ရာ ငြိမ်းချမ်းရေးဖော်ဆောင်မည့်အဖွဲ့အစည်းနှင့် ဆွေးနွေးရေးလုပ်ငန်းစဉ်များကို ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဖိတ်ခေါ်အပ်ပါသည်။ | ပြည်ထောင်စုအစိုးရအဖွဲ့ ကြေညာချက်အမှတ်၊ ၁/၂၀၁၁ |



## ‘ဝ’အထူးဒေသ(၂)နှင့် ငြိမ်းချမ်းရေး ဆွေးနွေးမှုများ

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၆-၉-၂၀၁၁ | **ရှမ်းပြည်နယ်အစိုးရအဖွဲ့နှင့်‘ဝ’အထူးဒေသ(၂)မှ အဖွဲ့များ ပဏာမငြိမ်းချမ်းရေး သဘောတူညီချက်များရရှိ။ သဘောတူညီချက်ကို နှစ်ဖက်လက်မှတ်ရေးထိုး**<br>ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် အစိုးရ၏ ငြိမ်းချမ်းရေး ဖိတ်ခေါ်ချက်အရ ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် နိုင်ငံတော်အစိုးရသို့ ကမ်းလှမ်းလာသော ‘ဝ’ အထူးဒေသ(၂)အဖွဲ့နှင့် ရှမ်းပြည်နယ် အစိုးရမှဖွဲ့စည်းပေးသော ပြည်နယ်အဆင့် ငြိမ်းချမ်းရေး ဖော်ဆောင်ရေးအဖွဲ့တို့သည် ၂၀၁၁ခုနှစ်၊ စက်တင်ဘာ ၆ရက်တွင် ကျိုင်းတုံမြို့၌ တွေ့ဆုံဆွေးနွေးခဲ့ကြသည်။<br>ဆွေးနွေးပွဲသို့ ရှမ်းပြည်နယ် ငြိမ်းချမ်းရေး ဖော်ဆောင်ရေးအဖွဲ့ခေါင်းဆောင် ရှမ်းပြည်နယ် လုံခြုံရေးနှင့် နယ်စပ်ရေးရာဝန်ကြီးဌာန၊ ဝန်ကြီး ဗိုလ်မှူးကြီး အောင်သူနှင့် အဖွဲ့ဝင်များဖြစ်ကြသည့် ရှမ်းပြည်နယ်၊ ပြည်နယ်ဥပဒေချုပ် ဦးမောင်မောင်၊ တြိဂံဒေသတိုင်းစစ်ဌာနချုပ်မှ ဒုတိယဗိုလ်မှူးကြီး ဇော်ထွန်းမြင့်၊ ရှမ်းပြည်နယ် နယ်စပ်ဒေသ ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဖွံ့ဖြိုးရေးမှူး ဦးအောင်ကျော်မြင့်တို့ တက်ရောက်ခဲ့ကြပြီး ‘ဝ’အထူးဒေသ(၂)အဖွဲ့မှ ငြိမ်းချမ်းရေးဖော်ဆောင်ရေး အဖွဲ့ခေါင်းဆောင် | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ဗဟိုကော်မတီဝင် ဦးကျောက်ကွမ်းအမ်းနှင့် အဖွဲ့ဝင်များဖြစ်ကြသည့် ဗဟိုကော်မတီဝင် ဦးပေါက်ယူလျန်၊ ဗဟိုကော်မတီဝင် ဦးအောင်မြင့်တို့ တက်ရောက်ခဲ့ကြကြောင်း သိရှိရသည်။<br>ဆွေးနွေးပွဲအပြီးတွင် 'ဝ' ဒေသနှင့် ဆက်စပ်နယ်မြေများ တည်ငြိမ်အေးချမ်းရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေးများ ပူးပေါင်းဆောင်ရွက်ရန်အတွက် ပဏာမ သဘောတူညီချက်များကို လက်မှတ်ရေးထိုးခဲ့ကြပြီး ပြည်ထောင်စုအစိုးရက ဖွဲ့စည်းမည့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် ဆက်လက်ဆွေးနွေးကြမည်ဖြစ်ကြောင်း သတင်းရရှိသည်။ | |
| ၂။ | ၁-၁၀-၂၀၁၁ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် 'ဝ' အထူးဒေသ(၂) ငြိမ်းချမ်းရေး ဖော်ဆောင်ရေးအဖွဲ့တို့ ပထမအကြိမ် ငြိမ်းချမ်းရေးကိစ္စများ ညှိနှိုင်းဆွေးနွေး**<br>ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့မှ ဖွဲ့စည်းပေးသည့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် 'ဝ'အထူးဒေသ(၂)မှ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့သည် အောက်တိုဘာ၁ရက်၊ နံနက်၉နာရီတွင် လားရှိုးမြို့၌ နှစ်ဖက်တွေ့ဆုံ၍ ငြိမ်းချမ်းရေးကိစ္စများအား ပထမအကြိမ် ဆွေးနွေးကြသည်။ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက်/ သတင်းဌာန |
|---|---|---|---|
| | | တွေ့ဆုံဆွေးနွေးရာတွင် 'ဝ' အထူးဒေသ(၂)အဖွဲ့ခေါင်းဆောင် ဦးရှောက်မင်လျံမှ 'ဝ' အထူးဒေသ(၂)သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ အစိတ်အပိုင်းတစ်ခုဖြစ်ကြောင်း၊ ပြည်ထောင်စုမှ ခွဲထွက်မည်မဟုတ်ကြောင်း၊ တိုင်းပြည်ပြိုကွဲအောင်မည်သည့်အခါမျှ ပြုလုပ်လိမ့်မည် မဟုတ်ကြောင်းနှင့် ပြည်တွင်းငြိမ်းချမ်းရေးကို ရေရှည် ဆက်လက်ထိန်းသိမ်း၍ နယ်စပ်ဒေသ တည်ငြိမ်အေးချမ်းရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေးကို နိုင်ငံတော်အစိုးရနှင့်အတူ ပူးပေါင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားခဲ့သည်။<br>ဆက်လက်၍ ပညာရေး၊ ကျန်းမာရေးနှင့် နှစ်ဖက်ဆက်ဆံရေးရုံးများ ပြန်လည်ဖွင့်လှစ်ရေး၊ ဝန်ထမ်းများပြန်လည်တာဝန်ပေးစေလွှတ်ပေးရေး၊ မူးယစ်ဆေးဝါးပပျောက်အောင် နိုင်ငံတော်အစိုးရနှင့်အတူ ပူးပေါင်းဆောင်ရွက်ရေး၊ နယ်စပ်ဒေသ ဖွံ့ဖြိုးတိုးတက်ရေးနှင့် စီးပွားရေးအခြေခံလုပ်ငန်းများ စီမံဆောင်ရွက်ပေးရေးကိစ္စရပ်များအပေါ် နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆွေးနွေး၍ သဘောတူညီချက်များအား လက်မှတ်ရေးထိုးကြသည်။<br>အဆိုပါ တွေ့ဆုံဆွေးနွေးပွဲတွင် ပြည်ထောင်စုအစိုးရ ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ အဖွဲ့ခေါင်းဆောင် ဦးအောင်သောင်း | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | (တောင်သာမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ်)နှင့် အဖွဲ့ဝင် ကိုးဦး 'ဝ' အထူးဒေသ (၂) မှ အဖွဲ့ခေါင်းဆောင် ဦးရှောက်မင်းလျံ(ဒုတိယ ဥက္ကဋ္ဌ) နှင့် အဖွဲ့ဝင် ၁၅ဦးတို့ တက်ရောက်ကြသည်။ | |
| ၃။ | ၂၆-၁၂-၂၀၁၁ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် 'ဝ'အထူးဒေသ(၂) ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့တို့ ဒုတိယအကြိမ် ပြည်ထောင်စုအဆင့် ဆွေးနွေးပွဲ ပြုလုပ်ပြီး သဘောတူညီချက်များ လက်မှတ်ရေးထိုး**<br>ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် တောင်သာမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးအောင်သောင်း၊ ဒုတိယအဖွဲ့ ခေါင်းဆောင် မြစ်ကြီးနားမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးသိန်းဇော်နှင့် အဖွဲ့ဝင်များဖြစ်သော သမဝါယမဝန်ကြီးဌာနနှင့် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီး ဦးအုန်းမြင့်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ ပြည်ထောင်စု ဝန်ကြီး ဦးဝင်းထွန်း၊ ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးမောင်မောင်သိမ်းနှင့် ဒုတိယဝန်ကြီးများ၊ ဒုတိယ ရှေ့နေချုပ်နှင့် အဖွဲ့ဝင်များသည် ဒီဇင်ဘာ ၂၆ရက်နေ့တွင် 'ဝ'အထူးဒေသ(၂)၊ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ဒုတိယဥက္ကဋ္ဌ ဦးရှောက်မင်းလျံ ခေါင်းဆောင်သော'ဝ'အထူးဒေသ (၂)ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့တို့နှင့် ရှမ်းပြည်နယ်၊ ပန်ဆန်းမြို့၌ နှစ်ဦးနှစ်ဖက် သဘောတူညီချက်(၆)ချက်ကို လက်မှတ်ရေးထိုးကြပြီး အပြန်အလှန် လဲလှယ်ခဲ့ကြသည်။ အဆိုပါ သဘောတူညီချက်(၆)ချက်မှာ-<br>(၁) ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် 'ဝ'အထူးဒေသ (၂) ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့တို့ ၂၀၁၁ခုနှစ်၊ အောက်တိုဘာလ ၁ ရက်နေ့တွင် လားရှိုးမြို့၌ သဘောတူ လက်မှတ်ရေးထိုးခဲ့ကြသော သဘောတူညီချက်များကို ဆက်လက်အကောင်အထည်ဖော်ကြရန် သဘောတူညီသည်။<br>(၂) 'ဝ'အထူးဒေသ(၂)နယ်မြေအတွင်း မှီတင်းနေထိုင်ကြသော တိုင်းရင်းသားများ၏ လူမှုဘဝမြင့်မားရေးနှင့် ဒေသတွင်း စီးပွားရေးဖွံ့ဖြိုးတိုးတက်ရေး လုပ်ငန်းစဉ်များတွင် ပြည်ထောင်စုအစိုးရမှ ပါဝင်ပူပေါင်း ကူညီဆောင်ရွက်ပေးရန်အတွက် နှစ်ဖက်ညှိနှိုင်းပြီး နှစ်တို၊ နှစ်ရှည် လူမှုစီးပွား ဖွံ့ဖြိုးတိုးတက်ရေး စီမံချက်များ ချမှတ်ဆောင်ရွက်ရန် သဘောတူသည်။<br>(၃) 'ဝ'အထူးဒေသ(၂) နယ်မြေအတွင်းရှိ တိုင်းရင်းသားလူငယ်များ၏ တွေးခေါ် | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | မြော်မြင်မှု၊ အသက်မွေးဝမ်းကျောင်း အတတ်ပညာများ တတ်မြောက်မှုနှင့် လူသားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်မှုတို့ကို မျှော်မှန်းပြီး ပညာသင်ယူနိုင်မှု အခွင့်အလမ်းများ တိုးတက်မြင့်မားလာစေရေးအတွက် ပြည်ထောင်စုအစိုးရမှ ကူညီဆောင်ရွက်ပေးရန် သဘောတူသည်။<br>(၄) 'ဝ'အထူးဒေသ(၂)နယ်မြေအတွင်းရှိ တိုင်းရင်းသားများ၏ ကျန်းမာရေး စောင့်ရှောက်နိုင်မှုအတွက် ကုသရေး၊ ကာကွယ်ရေး၊ ပညာပေးရေးလုပ်ငန်းစဉ်များကို ဒေသခံပြည်သူများပါ ကျန်းမာရေးအသိစိတ်ဓာတ်များ ရရှိလာပြီး ကိုယ်တိုင်ပါဝင်ပူးပေါင်းဆောင်ရွက်နိုင်သော အဆင့်ရှိလာရန် ရေရှည်စီမံချက်များချမှတ်၍ ကျယ်ပြန့်စွာ ပူးပေါင်းဆောင်ရွက်နိုင်ရေးအတွက် ပြည်ထောင်စုအစိုးရမှ အစီအမံများ ချမှတ် ဆောင်ရွက်ပေးရန် သဘောတူသည်။<br>(၅) 'ဝ'အထူးဒေသ(၂)နယ်မြေအတွင်းရှိမြို့နယ်များမှ ပြည်သူ့ကိုယ်စားလှယ်များသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ လွှတ်တော်အဆင့်ဆင့်တွင်ပါဝင်ပြီး နိုင်ငံတော်နှင့် ဒေသအတွင်း အရေးအရာများကို 'ဝ'အထူးဒေသ(၂)နယ်မြေရှိပြည်သူ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ဆန္ဒများနှင့်အညီ ဖော်ထုတ်၊ တင်ပြ၊ စီမံခွင့်ရရှိနိုင်ရေးအတွက် ဆက်လက်ညှိနှိုင်း ဆွေးနွေးဆောင်ရွက်သွားရန် သဘောတူသည်။<br>(၆) 'ဝ'အထူးဒေသ(၂)သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ အရေးပါသော အစိတ်အပိုင်းဖြစ်သည်။ 'ဝ'အထူးဒေသ(၂)သည် နိုင်ငံတော်အား သွေးကွဲစေခြင်း၊ နိုင်ငံတော်မှ ခွဲထွက်ခြင်း စသည်တို့ကို လုံးဝပြုလုပ်မည် မဟုတ်ကြောင်းနှင့် နိုင်ငံတော်၏ အချုပ်အခြာအာဏာနှင့် နယ်မြေတည်တံ့ခိုင်မြဲရေးအတွက် 'ဝ'အထူးဒေသ(၂)၏ စွမ်းရည်များအား လှူဒါန်းပေးဆောင်သွားရန် သဘောတူညီပြီး ဖြစ်သည်နှင့်အညီ ဆက်လက်၍ နိုင်ငံတော်၏ လုံခြုံရေး၊ ကာကွယ်ရေးအတွက် နိုင်ငံတော်၏ ကာကွယ်ရေး အင်အားစုများနှင့် တစ်စိတ် တစ်ဝမ်းတည်း ပူးပေါင်းဆောင်ရွက်သွားနိုင်ရေး ဆက်လက်ညှိနှိုင်းဆွေးနွေးသွားရန် သဘောတူသည်။ | |

## အထူးဒေသ(၄)နှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၇-၉-၂၀၁၁ | **ရှမ်းပြည်နယ်အစိုးရအဖွဲ့နှင့် မိုင်းလားအထူးဒေသ(၄)မှ အဖွဲ့များ ပဏာမငြိမ်းချမ်းရေးသဘောတူညီချက်ကို လက်မှတ်ရေးထိုး**<br>ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ ငြိမ်းချမ်းရေးဖိတ်ခေါ်ချက်အရ ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် နိုင်ငံတော်အစိုးရသို့ ကမ်းလှမ်းလာသော မိုင်းလားအထူးဒေသ(၄) အဖွဲ့နှင့် ရှမ်းပြည်နယ်အစိုးရမှ ဖွဲ့စည်းပေးသော ပြည်နယ်အဆင့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့တို့သည် ၂၀၁၁ ခုနှစ်၊ စက်တင်ဘာ ၇ ရက်နေ့တွင် ကျိုင်းတုံမြို့၌ တွေ့ဆုံဆွေးနွေးခဲ့ကြသည်။<br>ဆွေးနွေးပွဲသို့ ရှမ်းပြည်နယ် ငြိမ်းချမ်းရေးဖော်ဆောင်ရေး အဖွဲ့ခေါင်းဆောင် ရှမ်းပြည်နယ် လုံခြုံရေးနှင့် နယ်စပ်ရေးရာ ဝန်ကြီးဌာန၊ ဝန်ကြီး ဗိုလ်မှူးကြီး အောင်သူနှင့် အဖွဲ့ဝင်များဖြစ်ကြသည့် ရှမ်းပြည်နယ် ပြည်နယ်ဥပဒေချုပ် ဦးမောင်မောင်၊ တြိဂံဒေသတိုင်းစစ်ဌာနချုပ်မှ ဒုတိယဗိုလ်မှူးကြီး ဇော်ထွန်းမြင့်၊ ရှမ်းပြည်နယ် နယ်စပ်ဒေသ ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဖွံ့ဖြိုးရေးမှူး ဦးအောင်ကျော်မြင့်တို့ တက်ရောက်ခဲ့ကြပြီး မိုင်းလားအထူးဒေသ(၄)အဖွဲ့မှ ငြိမ်းချမ်းရေးဖော်ဆောင်ရေး အဖွဲ့ခေါင်းဆောင် | |
| | | အထူးဒေသ(၄)၊ (ဒုတိယဥက္ကဋ္ဌ ဦးစံပေ့နှင့် အဖွဲ့ဝင်များဖြစ်ကြသော အထွေထွေအတွင်းရေးမှူး ဦးအိုက်ရှန်လာ၊ ဒုတိယစစ်ဦးစီးမှူး ဦးလမ်းအောင်၊ ဆက်ဆံရေးမှူး ဦးဇင်ခမ်းနော်တို့ တက်ရောက်ခဲ့ကြကြောင်း သိရှိရသည်။<br>ဆွေးနွေးပွဲအပြီးတွင် မိုင်းလားအထူးဒေသ(၄) နယ်မြေအတွင်း တည်ငြိမ်အေးချမ်းရေးနှင့် ဖွံ့ဖြိုးတိုးတက်ရေးများ ပူးပေါင်းဆောင်ရွက်ရန်အတွက် ပဏာမသဘောတူညီချက်များကို လက်မှတ်ရေးထိုးခဲ့ကြပြီး ပြည်ထောင်စုအစိုးရက ဖွဲ့စည်းမည့် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် ဆက်လက်ဆွေးနွေးကြမည်ဖြစ်ကြောင်း သတင်းရရှိသည်။ | |
| ၂။ | ၉-၁၀-၂၀၁၁ | **ပြည်ထောင်စုအစိုးရအဖွဲ့က ဖွဲ့စည်းပေးသည့် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးမည့်အဖွဲ့နှင့် အထူးဒေသ(၄) ငြိမ်းချမ်းရေးဆွေးနွေးမည့်အဖွဲ့တို့ ငြိမ်းချမ်းရေးကိစ္စများ ပထမအကြိမ်ဆွေးနွေး**<br>ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့က ဖွဲ့စည်းပေးသည့် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးမည့် အဖွဲ့နှင့် အထူးဒေသ(၄) ငြိမ်းချမ်းရေးဆွေးနွေးမည့် အဖွဲ့တို့သည် အောက်တိုဘာ ၉ရက် နံနက် ၁၀နာရီ ၂၅မိနစ်က ကျိုင်းတုံမြို့၌ နှစ်ဖက် တွေ့ဆုံ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ၍ ငြိမ်းချမ်းရေးကိစ္စများကို ပထမ အကြိမ် ဆွေးနွေးကြသည်။ ထိုသို့တွေ့ဆုံရာတွင် အထူးဒေသ(၄) အဖွဲ့ခေါင်းဆောင် ဦးစံပေ့က အထူးဒေသ(၄)သည် ပြည်ထောင်စုအတွင်းမှ ခွဲထွက်ခြင်း၊ နိုင်ငံတော်ကို ဆန့်ကျင်ခြင်း စသည်တို့ကို လုံးဝပြုလုပ်မည်မဟုတ်ကြောင်း ပြည်တွင်းငြိမ်းချမ်းရေးနှင့် နယ်စပ်ဒေသဖွံ့ဖြိုးတိုးတက်ရေးအတွက် အထူးဒေသ(၄)၏ စွမ်းရည်များဖြင့် ပူးပေါင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားသည်။<br>ဆက်လက်၍ နှစ်ဦးနှစ်ဖက် ဆက်ဆံရေးရုံးများ ပြန်လည်ဖွင့်လှစ်ရေး၊ အထူးဒေသ (၄)တွင်ပညာရေး၊ ကျန်းမာရေး၊ စိုက်ပျိုးရေး၊ လမ်းပန်းဆက်သွယ်မှုကောင်းမွန်ရေး၊ ဝန်ထမ်းများ ပြန်လည်တာဝန်ပေးစေလွှတ်ရေး၊ မူးယစ်ဆေးဝါး ပပျောက်ရေးကိစ္စများအပေါ် နှစ်ဦးနှစ်ဖက် ပူးပေါင်းဆောင်ရွက်ရေး ညှိနှိုင်းဆွေးနွေး၍ သဘောတူညီချက်များကို လက်မှတ်ရေးထိုးကြသည်။<br>အဆိုပါ တွေ့ဆုံဆွေးနွေးပွဲတွင် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးမည့်အဖွဲ့မှ တောင်သာမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးအောင်သောင်းခေါင်းဆောင်သောအဖွဲ့ဝင် (၁၀)ဦး၊ အထူးဒေသ(၄)မှ ဦးစံပေ့ခေါင်းဆောင်သော အဖွဲ့ဝင်(၁၀)ဦးတို့ တက်ရောက်ကြ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ကြောင်းနှင့် ဆွေးနွေးမှုများ ထပ်မံပြုလုပ်သွားမည်ဖြစ်ကြောင်း သိရှိရသည်။ ဆွေးနွေးပွဲအပြီးတွင် နှစ်ဦးနှစ်ဖက် လက်ဆောင်များ ပေးအပ်ကြကြောင်း သတင်းရရှိသည်။ | |
| ၃။ | ၂၇-၁၂-၂၀၁၁ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် အထူးဒေသ(၄) ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့တို့ ဒုတိယအကြိမ် ပြည်ထောင်စုအဆင့် ဆွေးနွေးပွဲပြုလုပ်ပြီး သဘောတူညီချက်များ လက်မှတ်ရေးထိုး**<br>ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် အထူးဒေသ(၄) ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့တို့ မိုင်းလားမြို့၊ အထူးဒေသ(၄) ဌာနချုပ်ရုံး အစည်းအဝေးခန်းမ၌ ဒုတိယအကြိမ် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးတွေ့ဆုံဆွေးနွေးခဲ့ကြသည်။ ဆွေးနွေးပွဲတွင် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့ခေါင်းဆောင် တောင်သာမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးအောင်သောင်း၊ ဒုတိယအဖွဲ့ခေါင်းဆောင် မြစ်ကြီးနားမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးသိန်းဇော်နှင့်အဖွဲ့ဝင်များ ဖြစ်သော သမဝါယမဝန်ကြီးဌာနနှင့် မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးအုန်းမြင့်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီး | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ဌာန ပြည်ထောင်စုဝန်ကြီး ဦးဝင်းထွန်း၊ ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးမောင်မောင်သိမ်းနှင့် ဒုတိယဝန်ကြီးများ၊ ဒုတိယရှေ့နေချုပ်နှင့် အဖွဲ့ဝင်များသည် အထူးဒေသ (၄)ဥက္ကဋ္ဌ ဦးစိုင်းလင်း၊ ဒုတိယဥက္ကဋ္ဌ ဦးစံပေ့နှင့် အတွင်းရေးမှူး ဦးခမ်းမောင်တို့အဖွဲ့များသည် ၂၇-၁၂-၂၀၁၁ ရက်နေ့တွင် ဒုတိယအကြိမ် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး တွေ့ဆုံဆွေးနွေးပွဲကို ကျင်းပခဲ့သည်။ ဆွေးနွေးပွဲတွင် သဘောတူညီချက်(၆)ချက်ကို လက်မှတ်ရေးထိုးကြပြီး အပြန်အလှန် လဲလှယ်ခဲ့ကြသည်။ အဆိုပါ သဘောတူညီချက်(၆)ချက်မှာ-<br>(၁) ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့နှင့် အထူးဒေသ(၄) ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့တို့ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ ၉ ရက်နေ့တွင် ကျိုင်းတုံမြို့၌ သဘောတူလက်မှတ်ရေးထိုးခဲ့ကြသော သဘောတူညီချက်များကို ဆက်လက်အကောင်အထည်ဖော်ကြရန် သဘောတူသည်။<br>(၂) အထူးဒေသ(၄) နယ်မြေအတွင်း မှီတင်းနေထိုင်ကြသော တိုင်းရင်းသားများ၏ လူမှုဘဝ မြင့်မားရေးနှင့်ဒေသတွင်း စီးပွားရေး၊ ဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းစဉ်များတွင် ပြည်ထောင်စုအစိုးရမှ ပါဝင်ပူးပေါင်း ကူညီဆောင် | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ရွက်ပေးရန်အတွက် နှစ်ဖက်ညှိနှိုင်းပြီး နှစ်တို၊ နှစ်ရှည် လူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေးစီမံချက်များ ချမှတ်ဆောင်ရွက်သွားရန် သဘောတူသည်။<br>(၃) အထူးဒေသ(၄)နယ်မြေအတွင်းရှိ တိုင်းရင်းသားလူငယ်များ၏ တွေးခေါ်မြော်မြင်မှု၊ အသက်မွေးဝမ်းကျောင်း အတတ်ပညာများ တတ်မြောက်မှုနှင့် လူသားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်မှုတို့ကို မျှော်မှန်းပြီး ပညာသင်ယူနိုင်မှု အခွင့်အလမ်းများ တိုးတက်မြင့်မားလာစေရေးအတွက် ပြည်ထောင်စုအစိုးရမှ ကူညီဆောင်ရွက်ပေးရန် သဘောတူသည်။<br>(၄) အထူးဒေသ(၄)နယ်မြေအတွင်းရှိ တိုင်းရင်းသားများ၏ ကျန်းမာရေး စောင့်ရှောက်နိုင်မှုအတွက် ကုသရေး၊ ကာကွယ်ရေး၊ ပညာပေးရေး လုပ်ငန်းစဉ်များကို ဒေသခံပြည်သူများပါ ကျန်းမာရေး အသိစိတ်ဓာတ်များ ရရှိလာပြီး ကိုယ်တိုင်ပါဝင် ပူးပေါင်းဆောင်ရွက်နိုင်သောအဆင့်ရှိလာရန် ရေရှည်စီမံချက်များချမှတ်၍ ကျယ်ပြန့်စွာ ပူးပေါင်းဆောင်ရွက်နိုင်ရေးအတွက် ပြည်ထောင်စုအစိုးရမှ အစီအမံများ ချမှတ်ဆောင်ရွက်ပေးရန် သဘောတူသည်။ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | (၅) အထူးဒေသ(၄)နယ်မြေအတွင်းရှိ မြို့နယ်များမှ ပြည်သူ့ကိုယ်စားလှယ်များသည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ လွှတ်တော်အဆင့်ဆင့်တွင်ပါဝင်ပြီး နိုင်ငံတော်နှင့် ဒေသအတွင်း အရေးအရာများကို အထူးဒေသ(၄) နယ်မြေရှိ ပြည်သူဆန္ဒများနှင့်အညီ ဖော်ထုတ်၊ တင်ပြ၊ စီမံခွင့်ရရှိနိုင်ရေးအတွက် ဆက်လက်ညှိနှိုင်းဆွေးနွေးဆောင်ရွက်သွားရန် သဘောတူသည်။<br>(၆) အထူးဒေသ(၄)သည် နိုင်ငံတော်အားသွေးကွဲစေခြင်း၊ နိုင်ငံတော်မှ ခွဲထွက်ခြင်း စသည်တို့ကို လုံးဝပြုလုပ်မည် မဟုတ်ကြောင်းနှင့် နိုင်ငံတော်၏ အချုပ်အခြာအာဏာနှင့် နယ်မြေတည်တံ့ခိုင်မြဲရေးအတွက် အထူးဒေသ(၄)၏ စွမ်းရည်များအား လျူဒါန်းပေးဆောင်သွားရန် သဘောတူညီပြီးဖြစ်သည်နှင့်အညီ ဆက်လက်၍ နိုင်ငံတော်၏ လုံခြုံရေး၊ ကာကွယ်ရေးအတွက် နိုင်ငံတော်၏ ကာကွယ်ရေးအင်အားစုများနှင့် တစ်စိတ်တစ်ဝမ်းတည်း ပူးပေါင်းဆောင်ရွက်သွားနိုင်ရေး ဆက်လက်ညှိနှိုင်းဆွေးနွေးသွားရန် သဘောတူသည်။ | |



## ကလို့ထူးဘောတပ်ဖွဲ့(ယခင်DKBA)နှင့် ငြိမ်းချမ်းရေးဆွေးနွေးမှုများ

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၃-၁၁-၂၀၁၁ | **ကရင်ပြည်နယ် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် ကလို့ထူးဘောတပ်ဖွဲ့(ယခင် DKBA)တို့ပဏာမ ငြိမ်းချမ်းရေးသဘောတူညီချက် လက်မှတ်ရေးထိုး**<br>ကရင်ပြည်နယ် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့နှင့် ကလို့ထူးဘောတပ်ဖွဲ့(ယခင် DKBA)တို့သည် ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ ၃ရက်တွင် ဘားအံမြို့၌ နှစ်ဦးနှစ်ဖက်တွေ့ဆုံဆွေးနွေးညှိနှိုင်းမှုများ ပြုလုပ်ကြပြီး ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် ပဏာမငြိမ်းချမ်းရေး သဘောတူညီချက်(၅)ချက်ကို လက်မှတ်ရေးထိုးကြသည်။<br>ကရင်ပြည်နယ်အစိုးရအဖွဲ့ လုံခြုံရေးနှင့် နယ်စပ်ရေးရာ ဝန်ကြီးဌာန၊ ဝန်ကြီး ဗိုလ်မှူးကြီးအောင်လွင် ခေါင်းဆောင်သော ကရင်ပြည်နယ် ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ အဖွဲ့ဝင်လေးဦးနှင့် ကလို့ထူးဘောတပ်ဖွဲ့၏ ဒုတိယခေါင်းဆောင် ဦးစောမူရှေး ခေါင်းဆောင်သော ငြိမ်းချမ်းရေးဖော်ဆောင်ရေးအဖွဲ့မှ အဖွဲ့ဝင်လေးဦးတို့ နှစ်ဖက်တွေ့ဆုံဆွေးနွေးညှိနှိုင်းကြပြီး-<br>(၁) ကရင်ပြည်နယ်အတွင်း မြန်မာ့တပ်မတော်နှင့် ကလို့ထူးဘောတပ်ဖွဲ့တို့သည် (၆-၁၁- ၂၀၁၁)ရက်နေ့မှစ၍ အပြန်အလှန် ပစ်ခတ်တိုက်ခတ်မှုများကို ရပ်ဆိုင်းထားရန် သဘောတူသည်။ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | (၂) ပစ်ခတ်တိုက်ခိုက်မှုများ ရပ်ဆိုင်းထားစဉ်ကာလအတွင်း ကလို့ထူးဘောတပ်ဖွဲ့သည် ဆုံဆည်းမြိုင်နေရာ ပတ်ဝန်းကျင်တွင် ယာယီအခြေပြုနေထိုင်ရန် သဘောတူသည်။<br>(၃) နှစ်ဦးနှစ်ဖက် အပြန်အလှန်ပြောဆိုဆက်ဆံဆွေးနွေးမှုများ ပြုလုပ်နိုင်ရန်အတွက် ကလို့ထူးဘောတပ်ဖွဲ့အား မြဝတီမြို့တွင် ယာယီဆက်ဆံရေးစခန်း ဖွင့်လှစ်ရန် သဘောတူသည်။<br>(၄) ပစ်ခတ်တိုက်ခိုက်မှုများ ရပ်ဆိုင်းထားစဉ်ကာလအတွင်း နှစ်ဦးနှစ်ဖက် သဘောတူညီထားသော နယ်မြေများမှအပ နယ်မြေ ကျော်လွန်၍ လက်နက်ကိုင်ဆောင်သွားလာမှုများကို နှစ်ဦးနှစ်ဖက် ကြိုတင်ညှိနှိုင်းပြီးမှ ဆောင်ရွက်ရမည်။<br>(၅) ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးမည့်အဖွဲ့နှင့် ဗိုလ်ချုပ်စောလားပွယ် ခေါင်းဆောင်သော ကလို့ထူး ဘောတပ်ဖွဲ့မှ အဆင့်မြင့်ငြိမ်းချမ်းရေးဆွေးနွေးမည့် ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက် သဘောတူညီသော နေရာ၊ သဘောတူညီသော အချိန်ကာလတို့တွင် တွေ့ဆုံ၍ နယ်မြေ တည်ငြိမ်အေးချမ်းရေး၊ ဖွံ့ဖြိုးတိုးတက်ရေး တပ်ဖွဲ့ဝင်များ အခြေချနေထိုင် လုပ်ကိုင်စားသောက်နိုင်ရေး၊ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ထာဝရ ငြိမ်းချမ်းရေး ရရှိသည်အထိ ဆက်လက်ဆွေးနွေးသွားနိုင်ရေးများကို သဘောတူသည်ဟူသည့် ပဏာမ သဘောတူညီချက်(၅)ချက်ကို လက်မှတ်ရေးထိုးခဲ့ကြကြောင်း သတင်းရရှိသည်။ | |
| ၂။ | ၁၁-၁၂-၂၀၁၁ | **ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့နှင့် ကလို့ထူးဘောတပ်ဖွဲ့(ယခင် DKBA) ငြိမ်းချမ်းရေး ဆွေးနွေးရေးအဖွဲ့တို့ ပြည်ထောင်စုအဆင့် ဆွေးနွေးပွဲ ပြုလုပ်ပြီး နှစ်ဖက်သဘောတူညီချက်များ လက်မှတ်ရေးထိုး**<br>ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးရေးအဖွဲ့နှင့် ကလို့ထူးဘောအဖွဲ့(ယခင် DKBA) တို့ ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးတွေ့ဆုံဆွေးနွေးပြီး ၁၀-၁၂-၂၀၁၁ရက်နေ့တွင် နှစ်ဖက်သဘောတူညီချက်များ လက်မှတ်ရေးထိုးခဲ့သည်။ ဆွေးနွေးပွဲတွင် ပြည်ထောင်စုအဆင့် ငြိမ်းချမ်းရေးဆွေးနွေးမည့် အဖွဲ့ခေါင်းဆောင် တောင်သာမြို့နယ် ပြည်သူ့လွှတ်တော်ကိုယ်စားလှယ် ဦးအောင်သောင်း ဦးဆောင်သော အဖွဲ့ဝင်(၇)ဦးနှင့် ကလို့ထူးဘောအဖွဲ့မှ ဦးစောလားပွယ် ဦးဆောင်သော အဖွဲ့ဝင်(၆)ဦးတို့သည် ကရင်ပြည်နယ် ဘားအံမြို့၌ ပထမအကြိမ် ပြည်ထောင်စုအဆင့် တွေ့ဆုံဆွေးနွေးညှိနှိုင်းမှုများ | |

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | ပြုလုပ်ကြပြီး နှစ်ဦးနှစ်ဖက်သဘောတူညီချက်(၆)ချက်ကို လက်မှတ်ရေးထိုးကြသည်။ အဆိုပါ သဘောတူညီချက်များမှာ-<br>(၁) ၂၀၁၁ခုနှစ် နိုဝင်ဘာလ ၃ရက်နေ့က ကရင်ပြည်နယ်ငြိမ်းချမ်းမှု တည်ဆောက်ရေးအဖွဲ့နှင့် ကလို့ထူးဘောအဖွဲ့ ယခင် (DKBA) မှ ငြိမ်းချမ်းရေးတည်ဆောက်ရေးအဖွဲ့တို့ လက်မှတ်ရေးထိုးခဲ့ကြသော ငြိမ်းချမ်းရေးတည်ဆောက်ရန်အတွက် ပဏာမသဘောတူညီချက်ကို အတည်ပြုရန် သဘောတူသည်။<br>(၂) ကရင်ပြည်နယ်သည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ အရေးပါသော အစိတ်အပိုင်းတစ်ခုဖြစ်သည်။ ကရင်ပြည်နယ်ကို ပြည်ထောင်စုအတွင်းမှ မည်သည့်အခါမျှ ခွဲမထွက်ရန် သဘောတူသည်။<br>(၃) ပြည်ထောင်စုမပြိုကွဲရေး၊ တိုင်းရင်းသား စည်းလုံးညီညွတ်မှုမပြိုကွဲရေးနှင့် အချုပ်အခြာအာဏာတည်တံ့ခိုင်မြဲရေးတို့ကို ထာဝစဉ်ထိန်းသိမ်းစောင့်ရှောက်သွားရန် သဘောတူသည်။<br>(၄) ဆုံဆည်းမြိုင်ဒေသတွင် ယာယီအခြေပြု၍ စုကလိဒေသတွင် နယ်မြေဖွံ့ဖြိုးတိုးတက်ရေး၊ ကလို့ထူးဘောတပ်ဖွဲ့ဝင်များနှင့် မိသားစုများ အခြေချ | |



| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| | | နေထိုင် လုပ်ကိုင်စားသောက်နိုင်ရေး လူမှုဘဝမြှင့်တင်ရေး လုပ်ငန်းစဉ်များကို ဥပဒေနှင့်အညီ အစိုးရနှင့်ပူးပေါင်းပြီးဆောင်ရွက်ရန် သဘောတူသည်။<br>(၅) မူးယစ်ဆေးဝါးနှင့်စိတ်ကို ပြောင်းလဲစေတတ်သောဆေးဝါးများ တိုက်ဖျက်ရေးအား ပြည်ထောင်စုအစိုးရနှင့် ပူးပေါင်းဆောင်ရွက်ရန် သဘောတူသည်။<br>(၆) ဆက်လက်ပြီး ထာဝရငြိမ်းချမ်းရေးတည်ဆောက်နိုင်ရေးအတွက် ဆွေးနွေးမှုများ ပြုလုပ်သွားရန် သဘောတူသည်။ | |

